ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

၁၀။ ညွှန်ကြားရေးမှူးချုပ် ပြည်ပခရီးသွားနေပါသဖြင့် ဒုတိယ ညွှန်ကြားရေးမှူးချုပ်မှ လက်မှတ်ရေးထိုး တင်ပြရခြင်း ဖြစ်ပါသည်။

(ချိုချိုဝင်း)
ဒုတိယ ညွှန်ကြားရေးမှူးချုပ်

ဥက္ကဌ

၁၁။ [illegible] Delicious Food [illegible]

20/12.

စားပွဲတင်

၁၇။ Delicious Food Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ ပဲခူးတိုင်း ဒေသကြီး၊ရေတာရှည်မြို့နယ် ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူးချုပ် ဦးအေးကိုမှ Delicious Food Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ်ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြား ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စကို ရှင်းလင်း တင်ပြပါသည်။

ကော်မရှင်ဥက္ကဋ္ဌ၊ စက်မှုဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးစိုးသိန်းမှ ယခုကိစ္စမှာ ဝန်ကြီး ဌာနပိုင် သကြားစက်ကို ငှားရမ်းလုပ်ကိုင်ခြင်း ကိစ္စဖြစ်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနမှ တာဝန်ယူပြီး နိုင်ငံတော် သမ္မတရုံးသို့ သဘောတူညီချက် ရယူရန် တင်ပြပေးရမှာ ဖြစ်ကြောင်း၊ သဘောတူညီချက် ရပါက လုပ်ငန်းလုပ်ကိုင်ခွင့် ပြုရန် ဖြစ်ကြောင်း ဆွေးနွေးပြော ကြားပါသည်။

မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်းမှ ဦးဆောင်ညွှန်ကြားရေးမှူး ဒေါက်တာ ချို့ဝင်းမော်မှ ယခုလုပ်ငန်းသည် သကြားစက်ငှားရမ်းခြင်းနှင့် နိုင်ငံခြားမှ သကြားကုန်ကြမ်း တင်သွင်း ပြီး သကြားထုတ်လုပ်ခြင်း ဟူ၍ အပိုင်း(၂)ပိုင်း ရှိပါကြောင်း Refined Sugar ထုတ်လုပ်ရန် အတွက် စက်ပစ္စည်းများ တင်သွင်းမှာ ဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အသစ်မဟုတ်ပါ၍ အများနည်းတူ ပေးရန် သင့်/မသင့် စဉ်းစားရန်လိုကြောင်း ဆွေးနွေးပြောကြား ပါသည်။

ကော်မရှင်ဥက္ကဋ္ဌ စက်မှုဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီး ဦးစိုးသိန်းမှ အာဆီယံ စံချိန်စံညွှန်း နှင့်အညီ ကုန်ကြမ်းပစ္စည်း၊ စက်ပစ္စည်းများကို ပြည်ပမှ လွတ်လွတ်လပ်လပ် တင်သွင်းနိုင်ပါကြောင်း၊ သို့သော် နိုင်ငံတော်သို့ သတ်မှတ်ထားသည့် အခွန်ပေးဆောင်ရမှာ ဖြစ်ကြောင်း၊ ယခုကိစ္စမှာ ရင်းနှီး မြှုပ်နှံမှုနှင့် မသက်ဆိုင်သည့် ငှားရမ်းခြင်းကိစ္စသာဖြစ်၍ ကုန်ကြမ်းပစ္စည်း၊ စက်ပစ္စည်းနှင့် မော်တော်ယာဉ်များ တင်သွင်းခြင်းများအပေါ် အခွန် ကင်းလွတ် ခွင့် မပြုကြောင်း၊ လုပ်ငန်းအသစ် ရင်းနှီးမြှုပ်နှံမှု အသစ်ဖြစ်ပါက ခွင့်ပြုရန် ဖြစ်ကြောင်း ဆွေးနွေး ပြောကြားပါသည်။

ကော်မရှင် အစည်းအဝေးမှ Delicious Food Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ ပဲခူးတိုင်း ဒေသကြီး၊ ရေတာရှည် မြို့နယ်ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြား ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စကို ခွင့်မပြုရန် ဆုံးဖြတ်ပါသည်။

| စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- | --- |
| (၃) | Delicious Food Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ ပဲခူးတိုင်း ဒေသကြီး၊ရေတာရှည်မြို့နယ် ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စကို ခွင့်မပြုရန်၊ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်<br>လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန |

၁၉။ အစည်းအဝေးကိုမွန်းလွဲ(၁၇း၃၀)နာရီတွင်ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(အေးကို )
ညွှန်ကြားရေးမှူးချုပ်

စာအမှတ်၊ ရက-၁/န-၀၀၂/၂၀၁၂ ( 2059 )
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ မတ်လ 9 ရက်

**ဖြန့်ဝေခြင်း**

- အစည်းအဝေးတက်ရောက်သူများအားလုံး

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၂၂၁/၂၀၁၂(          )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီလ     ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **Delicious Food Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ ပဲခူးတိုင်း ဒေသကြီး၊ ရေတာရှည်မြို့နယ် ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Delicious Food Ltd. သည် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း၊ ပဲခူးတိုင်း ဒေသကြီး၊ ရေတာရှည် မြို့နယ်ရှိ အမှတ်(၆) သကြားစက် မြေ (၇၂၉-၅၀)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား နှစ်ရှည် ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုင်းသီဟ (အဘ-ဦးဆူရေ့(စ်)ချန်ဒရာ)က လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်ခံခဲ့ရာ

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ကြံတောင်သူပေါင်း (၁၅၀၀)မှ (၂၀၀၀) ဝန်းကျင်အတွင်း ကြံစိုက်ပျိုး ပေးသွင်းလျှက် ရှိသည့်အပြင် ဒေသခံများ အတွက်လည်း အလုပ်အကိုင် အခွင့် အလမ်းများ ပေါ်ပေါက်စေ၍ ဒေသစီးပွားရေး ဖွံ့ဖြိုးမှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊

(၂) ပုဂ္ဂလိကမှ ဆောင်ရွက်သည့်အတွက် ငွေကြေးဆိုင်ရာ ကန့်သတ်မှုဖြင့် ဆောင်ရွက် ခြင်းဖြစ်ပြီး၊ စက်ရုံကို ပိုမိုခေတ်မီ တိုးတက်အောင် မွမ်းမံနိုင်မည် ဖြစ်ပြီး အဆင့်မီသကြား ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း၊ ကြံတောင်သူများ သည်ကြံစိုက်ဧကများတွင် အထွက် ကောင်းမျိုးများ တိုးချဲ့စိုက်ပျိုးနိုင်ခြင်း၊ GAP စနစ်ဖြင့် တိုးချဲ့စိုက်ပျိုးနိုင်ခြင်း တို့ ကြောင့် အထွက်နှုန်းတိုးတက်ပြီး ကုန်ကြမ်း ရရှိရေးအတွက် အဆင်ပြေပါကြောင်း၊

(၃) မြေယာသုံးစွဲမှု အဆင်ပြေပါကြောင်း ၊

(၄) ထွက်ရှိလာသော ဘေးထွက်ပစ္စည်း ဖြစ်သည့် စွန့်ပစ်ရေကို ကြံစိုက်မြောင်း နှင့် လယ်ကွင်း သို့ သဘာဝမြေသြဇာအဖြစ် သုံးစွဲခြင်း၊ ကြံဖတ်များကို

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၂၂၁/၂၀၁၂(        )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီလ    ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **Delicious Food Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ ပဲခူးတိုင်း ဒေသကြီး၊ ရေတာရှည်မြို့နယ် ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Delicious Food Ltd. သည် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း၊ ပဲခူးတိုင်း ဒေသကြီး၊ ရေတာရှည်မြို့နယ်ရှိ အမှတ်(၆) သကြားစက် မြေ (၇၂၉-၅၀)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား နှစ်ရှည် ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုင်းသီဟ (အဘ-ဦးဆူရေ့(စ်)ချန်ဒရာ)က လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်ခံခဲ့ရာ

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ကြံတောင်သူပေါင်း (၁၅၀၀)မှ (၂၀၀၀) ဝန်းကျင်အတွင်း ကြံစိုက်ပျိုးပေးသွင်းလျှက် ရှိသည့်အပြင် ဒေသခံများ အတွက်လည်း အလုပ်အကိုင် အခွင့်အလမ်းများ ပေါ်ပေါက်စေ၍ ဒေသစီးပွားရေး ဖွံ့ဖြိုးမှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊

(၂) ပုဂ္ဂလိကမှ ဆောင်ရွက်သည့်အတွက် ငွေကြေးဆိုင်ရာ ကန့်သတ်မှုဖြင့် ဆောင်ရွက် ခြင်းဖြစ်ပြီး၊ စက်ရုံကို ပိုမိုခေတ်မီ တိုးတက်အောင် မွမ်းမံနိုင်မည်ဖြစ်ပြီး အဆင့်မီသကြား ထုတ်လုပ်နိုင်မည်ဖြစ်ကြောင်း၊ ကြံတောင်သူများသည်ကြံစိုက်ဧကများတွင် အထွက် ကောင်းမျိုးများ တိုးချဲ့စိုက်ပျိုးနိုင်ခြင်း၊ GAP စနစ်ဖြင့် တိုးချဲ့စိုက်ပျိုးနိုင်ခြင်း တို့ ကြောင့် အထွက်နှုန်းတိုးတက်ပြီး ကုန်ကြမ်း ရရှိရေးအတွက် အဆင်ပြေပါကြောင်း၊

(၃) မြေယာသုံးစွဲမှု အဆင်ပြေပါကြောင်း ၊

(၄) ထွက်ရှိလာသော ဘေးထွက်ပစ္စည်း ဖြစ်သည့် စွန့်ပစ်ရေကို ကြံစိုက်မြောင်းနှင့် လယ်ကွင်း သို့ သဘာဝမြေသြဇာအဖြစ် သုံးစွဲခြင်း၊ ကြံဖတ်များကို

လောင်စာအဖြစ် အသုံးပြုပြီး၊ မီးခိုးမဲများ မထွက်စေရန် ထိန်းချုပ်စနစ်များ ပါရှိခြင်းကြောင့် မီးခိုး အနည်းငယ်သာထွက်ခြင်း၊သကြားစက်သည် ကွင်းပြင်တွင် တည်ရှိသဖြင့် အနည်းငယ် ထွက်ရှိသည့် အသံ၊ အနံ့၊ အမှုန်များ လူနေအိမ်များသို့ ကျရောက်နိုင်မှု မရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင် ထိခိုက်မှုမရှိပါကြောင်း၊

(၅) ကြံဈေးနှုန်းအား ကြိတ်ဝါးရာသီ (အောက်တိုဘာ ၁၅ ရက်)မတိုင်မီ ကြေငြာပေးရန်၊ကြံဝယ်ယူရေး/သယ်ယူရေးအား သတ်မှတ်သည့် ခွဲတမ်းအတိုင်း အချိန်နှင့် တပြေးညီ ဝယ်/သယ်ပေးရန်၊ ကြံစိုက်ခင်းကိုလည်း စံပြစိုက်ခင်းအဖြစ် ထူထောင်ရန် ကြံ ဈေးနှုန်းအား သကြားရောင်းချသည့် ဈေးနှုန်းအပေါ်မူတည်၍ ထပ်မံ ဆောင်းပေးရန်၊ မျိုးကောင်းမျိုးသန့်များ သုံးကာ စံပြ ပြကွက် စိုက်ပျိုးပြသခြင်း ၊ နည်းပညာ ပြန့်ပွားရေးတို့ကို ဆောင်ရွက်ပေးရန်၊ ကြံစိုက်တောင်သူများ အတွက် ပံ့ပိုးပေးမည့်မျိုး၊ သွင်းအားစု၊ စိုက်ပျိုးစရိတ်များ ထိထိရောက်ရောက် အကျိုးရှိစေရန်၊ ကျေးရွာအရောက် ကွင်းဆင်း၍ အချိန်မီ ပံ့ပိုး ဆောင်ရွက်ရန် နှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ မှတ်ပုံတင် ဆောင်ရွက်ရန် အကြံပြုပါကြောင်း၊

(ခ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** (နောက်ဆက်တွဲ - ခ)

- အဆိုပြုကုမ္ပဏီမှ ကုန်ကြမ်း တင်သွင်းမည့် ကိစ္စနှင့် ပတ်သက်၍ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၏ လုပ်ထုံး လုပ်နည်းအတိုင်း ဆောင်ရွက်သွားရန် ဖြစ်ကြောင်းနှင့် ၎င်းတို့ဝန်ကြီးဌာန နှင့် ပတ်သက်မှု မရှိပါသဖြင့် သဘောထားမှတ်ချက် ပေးရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။

(ဂ) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန** (နောက်ဆက်တွဲ-ဂ)

- (၂၄-၂-၂၀၁၂)ရက်စွဲပါစာဖြင့် သဘောထား တောင်းခံထားပါသည်။

၃။ လုပ်ငန်း အဆိုပြုချက်ကို (နောက်ဆက်တွဲ - ဃ)ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၆.၂၉)သန်းအပါအဝင် ကျပ် (၁၀၀၀.၀၀) သန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | | **ကျပ် ၁၀၀၀.၀၀ သန်း** | **(US$ ၆.၂၉သန်း အပါအဝင်)** |
|---|---|---|---|
| (က) | ငွေသား | ၉၁၂.၂၆ | |
| (ခ) | စက်ပစ္စည်းကိရိယာနှင့် မော်တော်ယာဉ်များ | ၃၆.၀၀ | (US$ ၆.၀၀ သန်း ) |
| (ဂ) | အဆောက်အဦ | ၅၀.၀၀ | |
| (ဃ) | ကုန်ကြမ်း | ၁.၇၄ | (US$ ၀.၂၉သန်း) |

၄။ လျှပ်စစ်ဓါတ်အားကို မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးစက် (၅၀၀KW)ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ထုတ်လုပ်မည့် သကြားအမျိုးအစားများနှင့် ပြည်တွင်း၊ ပြည်ပ ရောင်းချမှု၊ ဈေးနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ထုတ်လုပ်မှု (တန်) | ပြည်တွင်း ရောင်း(တန် | ပြည်ပ ရောင်း(တန်) | ဈေးနှုန်း | |
|---|---|---|---|---|---|
| | | | | ကျပ်/တန် | US$/တန် |
| Refined Sugar (သန့်စင်သကြား) | ၃၀၀၀၀ | ၆၀၀၀ (၂၀%) | ၂၄၀၀၀ (၈၀%) | ၅၇၀၀၀၀ | ၆၇၅ |
| White Sugar (သကြားဖြူ) | ၃၀၀၀၀ | ၂၄၀၀၀ (၈၀%) | ၆၀၀၀ (၂၀%) | ၃၆၀၀၀၀ | ၄၈၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်။

**အမေရိကန်တစ်ဒေါ်လာ= ၆ ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်းကျပ် ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | ၁၉.၀၈ | ၁၁၄.၄၈ | ၁၂၀၆၀.၀၀ | ၁၂၁၇၄.၄၈ |
| အသုံးစရိတ် | ၁၇.၈၈ | ၁၀၇.၂၈ | ၁၁၂၄၇.၉၇ | ၁၁၃၅၅.၂၅ |
| အသားတင် အမြတ် | ၁.၂၀ | ၇.၂၀ | ၈၁၂.၀၃ | ၈၁၉.၂၃ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ( ၁၂၀၆) သန်း နှင့် အမေရိကန်ဒေါ်လာ(၀.၉၅) သန်း ၊ ဝင်ငွေခွန် ကျပ် (၃၄၈.၀၁) သန်းနှင့် အမေရိကန်ဒေါ်လာ(၂၅၀၀၀) ရရှိမည် ဖြစ်ပါသည်။လုပ်ငန်း၏ အရင်းကြေကာလ မှာ (၇)နှစ်၊ (၇)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR)မှာ (၉.၉၈)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၃၇၅)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဆေးပေးခန်းထားရှိခြင်း၊ ဝန်ထမ်းသားသမီးများ၏ ပညာရေးအတွက် မူလတန်းကျောင်းဖွင့်လှစ်ပေးခြင်း၊ အလုပ်သမား ဝန်ကြီးဌာနမှ ချမှတ်ထားသော ဝန်ထမ်းစည်းမျဥ်းအတိုင်း ဆောင်ရွက်ခြင်း၊ အခါအားလျော်စွာ ဖျော်ဖြေရေး အစီအစဥ်များ စီစဥ်ပေးခြင်းတို့ကိုစီစဥ်ပေးထားပါကြောင်း ကုမ္ပဏီမှ တင်ပြ ထားပါသည်။

၉။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာဖြစ်သူ ဦးစိုင်းသီဟ အမည်ဖြင့် သမဝါယမဘဏ် လီမိတက်ရှိ (၃၀-၁၂-၂၀၁၁) နေ့ရှိ ငွေလက်ကျန် ကျပ်(၅၄.၀၄)သန်း ၊ ကမ္ဘောဇဘဏ်လီမိတက်ရှိ (၉-၂-၂၀၁၂)နေ့ငွေလက်ကျန် (၅၀၀၀.၀၀)သန်း နှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် MICB ရှိ (၃၀-၁၂-၂၀၁၁ ) နေ့ရှိ နိုင်ငံခြားငွေလက်ကျန် အမေရိကန်ဒေါ်လာ (၀.၂၀ ) သန်း ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ ကနဦး ရင်းနှီးမြှုပ်နှံမှုတွင် တင်သွင်းမည့် စက်ပစ္စည်း နှင့် ကုန်ကြမ်းတန်ဘိုး US$ (၃.၂၀)သန်း ရှိကြောင်း တင်ပြထားရာ (၆.၂၇%) ရှိကြောင်း စိစစ်ရပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများ သာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ ကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ လုပ်ငန်းမှရသော FE ကို MICB (သို့မဟုတ်) MFTB သို့ လွှဲပို့ပြီး လုပ်ငန်း ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၂။ **စိစစ်တင်ပြချက်**

(က) ကနဦးတင်သွင်းမည့် စက်ပစ္စည်း နှင့် မော်တော်ယာဉ် စာရင်းတွင် အောက်ပါ လူစီး မော်တော်ယာဉ်များ ပါဝင်နေကြောင်း စိစစ်ရပါသည်-

| အမျိုးအစား | အရေအတွက်(စီး) | ဈေးနှုန်း(US$) | စုစုပေါင်း(US$) |
|---|---|---|---|
| Reconditioned Motor Vehicle (Right Hand Drive, Japan Origin) Prime Mover/Truck/ Pick up / Bus for Ferry /Wagon,Off Road 4x4 etc) | ၆၈ | ၁၁၂၅၀ | ၇၆၅၀၀၀ |

(ခ) ပြည်ပမှ ကုန်ကြမ်း တင်သွင်းရာတွင် လုပ်ငန်းသဘာဝအရ ကာလကြာရှည်စွာ သိုလှောင်ရန် နေရာ လိုအပ်ချက်များစွာ ရှိသည့်အပြင် ကုန်ကြမ်း အရည်အသွေး ထိခိုက်စေသဖြင့် ကုန်ကြမ်း (၁)လစာသာ တင်သွင်းမည်ဖြစ်ကြောင်း ဖော်ပြထားပါ သည်။

(ဂ ) ကုမ္ပဏီမှ အထောက်အထား တင်ပြရန် ကျန်ရှိသည့် US$ (၃.၀၀)သန်းအတွက် အထောက်အထားကို ကော်မရှင် အစည်းအဝေး တက်ရောက်သည့်အခါ တစ်ပါတည်း ယူဆောင်လာမည်ဖြစ်ပါကြောင်း သိရှိရပါသည်။

၁၃။ သို့ဖြစ်ပါ၍ Delicious Food Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း၊ ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ် ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အေးကို၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

၂။ Royal Hi- Tech Group Co., Ltd မှ မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံမြို့နယ်၊ **ရောဝတီမြစ်အရှေ့ဘက်ကမ်းရှိ ဆီမီးခုံကျေးရွာ အုပ်စု ဆိပ်ကမ်းတွင် ဆိပ်ခံတံတားတည်ဆောက်ပြီး အထွေထွေ ကုန်ပစ္စည်း တင်သင်္ဘောများ ဆိုက်ကပ်၍ ကုန်တင်ကုန်ချ ဆိပ်ကမ်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနမှ ဒုတိယညွှန်ကြားရေးမှူး ဒေါ်နီနီအေးမှ Royal Hi- Tech Group Co., Ltd မှ မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံမြို့နယ်၊ ရောဝတီမြစ် အရှေ့ဘက်ကမ်းရှိ ဆီမီးခုံကျေးရွာအုပ်စု ဆိပ်ကမ်းတွင် ဆိပ်ခံတံတားတည်ဆောက်ပြီး အထွေထွေ ကုန်ပစ္စည်း တင်သင်္ဘောများ ဆိုက်ကပ်၍ ကုန်တင်ကုန်ချ ဆိပ်ကမ်း ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ နှင့်စပ်လျဉ်း၍ အမှာစာဖြင့် ရှင်းလင်းတင်ပြပါသည်။

Royal Hi- Tech Group Co., Ltd မှ တာဝန်ရှိသူမှ ယခု နိုင်ငံတော်သမ္မတ လက်ထက် တွင် ဆင်းရဲနွမ်းပါးမှုလျှော့ချရေးအတွက် မန္တလေးတိုင်းဒေသကြီး၊ မြင်းခြံမြို့နယ်၊ ရောဝတီမြစ် အရှေ့ဘက်ကမ်းရှိ ဆီမီးခုံကျေးရွာ အုပ်စု ဆိပ်ကမ်းတွင် ဆိပ်ခံတံတား တည်ဆောက်ပြီး အထွေထွေကုန်ပစ္စည်းတင် သင်္ဘောများ ဆိုက်ကပ်၍ ကုန်တင်ကုန်ချ ဆိပ်ကမ်း တည်ဆောက်ရန်နှင့် စက်မှုဒေသ တည်ထောင်ရန် တင်ပြခဲ့ပါကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ဆိပ်ကမ်းနေရာသည် ရေကြောင်း ပြောင်းလဲမှုမရှိပါကြောင်း၊ အဆိုပါနေရာ၌ ဆိပ်ကမ်း လည်းမရှိပါကြောင်း၊ ဆင်းရဲနွမ်းပါးသည့် ကျေးလက်ဒေသဖြစ်ပါကြောင်း၊ မန္တလေးမြို့သို့ တစ်နာရီခွဲ၊ နှစ်နာရီခန့် သွားပါက ရောက်ရှိနိုင်ပါကြောင်း၊ အဓိကအားဖြင့် ကုန်တင်ကုန်ချလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများအား အတင်/အချ ပြုလုပ်ခြင်း၊ အဆိုပါ ဆိပ်ကမ်းသည် မြန်မာပြည်အလယ်ပိုင်းနှင့် မြန်မာပြည်အထက်ပိုင်း သို့ သွားလာနိုင် သည့် ဆိပ်ကမ်းတစ်ခုဖြစ်လာ နိုင်ကြောင်း၊ ဆိပ်ကမ်းမြို့အသွင် ဆောင်ရွက်ရန် အစီအစဉ် ရှိပါကြောင်း ရှင်းလင်း တင်ပြပါသည်။

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၊ ကုန်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာနမှ လက်ထောက် ညွှန်ကြားရေးမှူး ဦးလှထွန်းမှ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှတင်သွင်းရန်လိုအပ်သည့် စက်ပစ္စည်းများမှာ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်ပါကြောင်း၊ အဆိုပါစက်ပစ္စည်းစာရင်းတွင် လူစီး မော်တော်ယာဉ်များ ပါဝင်နေပါကြောင်း၊ ယခုအခါ လူစီး မော်တော်ယာဉ်များကို ပြည်တွင်း၌ လွတ်လပ်စွာ ဝယ်ယူနိုင်ပြီ ဖြစ်ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ပို့ဆောင်ရေးဝန်ကြီးဌာန၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနမှ တာဝန်ရှိသူမှ ကုမ္ပဏီမှ ၂၀၁၁ ခုနှစ်တွင် ဆိပ်ခံတံတားတည်ဆောက်ရန် အတွက် လျှောက်ထား ခဲ့ပါ

၇။ **ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့** အစည်းအဝေး အမှတ်စဉ် (၂၉/၂၀၁၂)(၃-၈-၂၀၁၂) မှ သဘောတူညီချက်အရ Myanmar Pyone Pan Tayar Industry Co., Ltd. အား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေဖြင့် ပြောင်းလဲ ဆောင်ရွက် ခွင့်ပြုသင့်ပါကြောင်း ရန်ကုန်တိုင်းဒေသကြီး အစိုးရ အဖွဲ့မှ ထောက်ခံတင်ပြထားပါသည်။ **နောက်ဆက်တွဲ(က)**

၈။ **စက်မှု ဝန်ကြီးဌာန၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနမှ** တပ်ဆင် စက်ကိရိယာ များနှင့် နှစ်စဉ် ထုတ်လုပ်မှု အချိုးအစား ဆီလျော်မှု ရှိပါကြောင်း၊ ကုန်ချော အရေအတွက်နှင့် ကုန်ကြမ်း လိုအပ်ချက် အချိုးအစား ညီညွတ်မျှတမှုနှင့် မှန်ကန်မှု ရှိပါကြောင်း၊ မူလ မှတ်ပုံတင်စဉ်က စက်အလုံး(၂၅၀) ဖြစ်သော်လည်း နောက်ဆုံး ကွင်းဆင်း စစ်ဆေးမှုအရ စက်အလုံး (၆၀၀)ဖြင့် တိုးချဲ့ ဆောင်ရွက်ထားပါကြောင်း၊ ၂၀၁၁-၂၀၁၂ ခုနှစ် အတွက် ဝင်ငွေခွန် ပေးသွင်းမှုမှာ (US$ ၁၈၀၅၆.၉၁) ဖြစ်ပါကြောင်းနှင့် တည်ဆဲ ဥပဒေများနှင့် ကိုက်ညီပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

၉။ **CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ** တစ်နှစ်လုံးအတွက် ကုန်ကြမ်း လိုအပ်ချက် မှာ တစ်ထည် လိုအပ်ချက်နှုန်း၊ တားမြစ် သတ်မှတ်စံနှုန်းနှင့် ကိုက်ညီမှု ရှိပါကြောင်း၊ အဆိုပြုချက်ပါ CMP လက်ခနှုန်းထားများသည် လက်ရှိ ရရှိသည့် CMP လက်ခနှုန်းထားများထက် ပိုမို ရရှိ၍ ဆီလျော်မှု ရှိပါကြောင်း၊ QC, PQC များ ခန့်ထားသင့်ပါကြောင်း၊ အဆိုပြုချက်ပါ အတိုင်း ထုတ်လုပ်ပါက စက်အရေအတွက် လွန်စွာနည်းပြီး ထုတ်လုပ်မှု ကွာဟနေသဖြင့် Single Needle M/C စက်များကို ထပ်မံ ဖြည့်ဆည်းရမည် ဖြစ်ပါကြောင်း၊ အလုပ်အကိုင် အခွင့်အလမ်း များ ရရှိစေပြီး ဆင်းရဲမွဲတေမှု လျှော့ချရေးကို အထောက်အကူပြုနိုင်မည် ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ကြောင်း သဘောထား ပြန်ကြား ထားပါသည်။ **နောက်ဆက်တွဲ(ခ)**

၁၀။ **မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနမှ** ပတ်ဝန်းကျင် အနေအထားအရ အဆိုပြု မြေနေရာ သည် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်နိုင်သော မြေအမျိုးအစား ဖြစ်ပြီး၊ လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်သည်ဟု ယူဆပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၁၁။ Myanmar Pyone Pan Tayar Industry Co., Ltd. မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ(MCIL)ဖြင့် CMP အထည်ချုပ်လုပ်ငန်း၏ စီးပွားဖြစ်စတင်သည့်နေ့မှာ (၁-၄-၂၀၀၄) ဖြစ်ပြီး နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခံစားခွင့်များ မရှိပါကြောင်း စိစစ် တင်ပြ အပ်ပါသည်။ **နောက်ဆက်တွဲ(ဃ)**

၁၂။ လုပ်ငန်းမှ ထွက်ရှိသော အထည်များ၏ ၁၀၀% ကို ပြည်ပသို့ တင်ပို့မည် ဖြစ်ပြီးနှစ်စဉ် ထုတ်လုပ်မှုများမှာ-

| | အမျိုး အမည် | အရေအတွက် (Doz ထောင်ပေါင်း) | လက်ခနှုန်း (US$ / Doz) |
|---|---|---|---|
| (က) | Coat | ၂၂.၀၀ | ၂၀.၀၀ |
| (ခ) | Jackets | ၂၀.၀၀ | ၁၅.၀၀ |
| (ဂ) | Trouser | ၃၅.၀၀ | ၁၀.၀၀ |
| (ဃ) | Vest | ၂၅.၀၀ | ၅.၅၀ |
| (င) | Pants | ၄၀.၀၀ | ၁၀.၀၀ |

၁၃။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နှစ်စဉ် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံး စရိတ် ခန့်မှန်းခြေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၇(ခ)/န-၆၈၈ / ၂၀၁၂ (၇၀၇၈၅ )
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Myanmar Pyone Pan Tayar Industry Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပြောင်းလဲ ဆောင်ရွက်ခွင့်အတွက် အဆိုပြုလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ် တောင်ပိုင်းမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ် ၁၅၀(ခ) ရှိ မြေ (၀.၈၂၆)ဧက(၃၃၄၂.၇၁ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦကို ငှားရမ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်လျှက် ရှိသော Myanmar Pyone Pan Tayar Industry Co., Ltd. အား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပြောင်းလဲ ဆောင်ရွက်ခွင့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၄/၂၀၁၂) (၁၇-၅-၂၀၁၂) အစည်းအဝေးမှ ခွင့်ပြုခဲ့ပါသည်။

၂။ အဆိုပါ ခွင့်ပြုချက်အရ ကိုရီးယားနိုင်ငံ၊ MPI Korea Co., Ltd. နှင့် ကိုရီးယား နိုင်ငံသား တစ်ဦးတို့ ရှယ်ယာများ ထည့်ဝင်၍ Myanmar Pyone Pan Tayar Industry Co., Ltd. တည်ထောင်ကာ (၁၀၀) ရာခိုင်နှုန်း နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၃။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်သီတာနှင့် Myanmar Pyone Pan Tayar Industry Co., Ltd. တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း စာချုပ် (မူကြမ်း)နှင့် မြေငှား ဂရန် မိတ္တူများ၊ လုပ်ငန်း တည်နေရာပြ မြေပုံများကို ပူးတွဲ တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ US$ ၀.၅၁၄ သန်း ဖြစ်ပြီး ယင်းတွင် ငွေသား US$ ၀.၁၅၀ သန်း၊ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း တန်ဘိုး US $ ၀.၁၀၁ သန်း၊ ပြည်တွင်းမှ ဝယ်ယူမည့် စက်ပစ္စည်း တန်ဘိုး US $ ၀.၀၃၃ သန်း၊ အဆောက်အဦ ပြန်လည် မွမ်းမံမှု US $ ၀.၂၃၀ သန်း တို့ ပါဝင်ပါသည်။

၅။ လုပ်ငန်း စီမံကိန်း ကာလမှာ ကနဦး နှစ် (၃၀)နှင့် နှစ်ဖက် သဘောတူညီချက်အရ နောက်ထပ် (၅)နှစ် တိုးမြှင့်မည် ဖြစ်ကြောင်း၊ တည်ဆောက်မှု ကာလ(ပြုပြင်မွမ်းမံကာလ)မှာ (၆)လ ဖြစ်ပြီး ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီး (၃)လအတွင်း စတင် ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ ရက်

အကြောင်းအရာ။ **Mother Industrial Co., Ltd. မှ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ကြီးကြပ်မှု လက်အောက်ရှိ တည်ငင်းကုန်း အုတ်ထုတ်လုပ်ရေး စက်ရုံ(စက်ရုံမြေ ၂၃၇.၆၂၉)ဧကနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖော့ကန်ဆိပ်ကမ်းမြေမှ တစိတ်တပိုင်း မြေဧရိယာ (၂၃.၂၉)ဧကတို့ကို နှစ်ရှည်ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်ရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ Mother Industrial Co., Ltd. မှ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄) အကြီးစားစက်ရုံ(သာယာဝတီ)ကြီးကြပ်မှု လက်အောက်ရှိ တည်ငင်းကုန်း အုတ်ထုတ်လုပ်ရေး စက်ရုံ(စက်ရုံမြေ ၂၃၇.၆၂၉)ဧကနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖော့ကန်ဆိပ်ကမ်းမြေမှ တစိတ်တပိုင်း မြေဧရိယာ (၂၃.၂၉)ဧကတို့ကို နှစ်ရှည်ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်ရန် အဆိုပြုချက် တင်ပြ လာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| - ငွေသားပမာဏ | ကျပ်သန်း | ၁၇၃၂.၀၉ |
| - ကနဦးကုန်ကြမ်းစရိတ် | ကျပ်သန်း | ၁၉၄၀.၃၃ |
| - အဆောက်အဦး | ကျပ်သန်း | ၆၃၀၀.၀၀ |
| - စက်ပစ္စည်းကိရိယာများ | ကျပ်သန်း | ၈၃၆၄.၆၇(US$၉.၈၄သန်း အပါအဝင်) |
| - ရုံးသုံးပရိဘောဂ | ကျပ်သန်း | ၉၀.၀၀ |
| - မော်တော်ယာဥ်များ | ကျပ်သန်း | ၁၈၂၃.၂၅(US$၂.၁၅သန်း အပါအဝင်) |
| - **စုစုပေါင်း** | **ကျပ်သန်း** | **၂၀၂၅၀.၃၄** (US$၁၁.၉၉သန်း အပါအဝင်) |

၃။ Mother Industrial Co., Ltd. သို့ တည်ငင်းကုန်း အုတ်ထုတ်လုပ်ရေးစက်ရုံ (၂၃၇.၆၂၉)ဧကနှင့် ဖော့ကန်ဆိပ်ကမ်းမြေ(၂၃.၂၉)ဧက ငှားရမ်းသည့် သဘောတူ စာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) အုတ်ထုတ်လုပ်ရေး စက်ရုံ(တည်ငင်းကုန်း)နှင့် ဖော့ကန်ဆိပ်ကမ်းမြေ(၂၃.၂၉) ဧကကို Mother Trading Co., Ltd (အငှားချထားခြင်း ခံရသူ)သို့ ကနဦး(၁၅)နှစ်နှင့် သက်တမ်းတိုး တစ်ကြိမ်လျှင် (၅)နှစ်၊ (၃)ကြိမ် စုစုပေါင်း(၃၀)နှစ် ။

ရှုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

(ခ) ငှားရမ်းခနှုန်းထားမှာ အုတ်ထုတ်လုပ်ရေး စက်ရုံ(တညင်းကုန်း)ပိုင် စက်ရုံမြေ၊ ကုန်ကြမ်းမြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးကိရိယာများ၊ ယာဉ်၊ ယန္တရားများနှင့် ဖော့ကန်ဆိပ်ကမ်းမြေ အပါအဝင် တစ်နှစ်လျှင် ကျပ် (၂၉၅.၃၂၂)သန်း ဖြစ်ပါသည်။ အငှားချထားခြင်းခံရသူသည် (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကို (၃)လတစ်ကြိမ်၊ (၃)လပြည့်သည့်လ၏ နောက်ဆုံးပတ်တွင် ပေးသွင်းရပါမည်။ ငှားရမ်းခကို (၆)လ တစ်ကြိမ် ပြန်လည်သုံးသပ်ပြီး နှစ်ဦး သဘောတူ ညှိနှိုင်းပြင်ဆင် သတ်မှတ်နိုင်ပါသည်။

(ဂ) အငှားချထားခြင်းခံရသူသည် မြေအသုံးချမှု ပရီမီယံကြေး အနေဖြင့် ဖော့ကန် ဆိပ်ကမ်းမြေ(၂၃.၂၉)ဧကအား (၁၅)နှစ် ငှားရမ်းခြင်းအတွက် ကျပ်(၁၂၄၄.၁၆၁)သန်း ပေးသွင်းရပါမည်။

(ဃ) အငှားချထားခြင်း ခံရသူသည် ဘဏ်အာမခံ (Bank Guarantee) အနေဖြင့် ငှားရမ်းခငွေ၏ (၁၀)%နှင့်ညီမျှသော ကျပ် (၂၉.၅၀၀)သန်းအား ပေးသွင်းရပါမည်။

(င) အငှားချထားခြင်းခံရသူအနေဖြင့် လုပ်ငန်းများတိုးချဲ့ခြင်း၊ စက်ပစ္စည်းများ ထပ်မံတိုးချဲ့ တပ်ဆင်ခြင်းများကို အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရပါမည်။ အငှားချထားခြင်းခံရသူသည် မြေနေရာ လွတ်များတွင် အဆောက်အဦသစ် ဆောက်လုပ်လိုပါက အငှားချထားသူ၏ ခွင့်ပြုချက်ကို ရယူရမည် ဖြစ်ပြီး မြေငှားခ အဖိုးစားနားအား နှစ်ဖက်ညှိနှိုင်း သတ်မှတ် ဆောင်ရွက်ရပါမည်။

(စ) စက်ရုံတွင် လက်ရှိ တာဝန် ထမ်းဆောင်နေသော ဝန်ထမ်း(၄၁၁)ဦးကို ကုမ္ပဏီသို့ လွှဲပြောင်းပေးမည်ဖြစ်ပြီး ဝန်ထမ်းလစာ နှစ်တိုးစရိတ်များအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများအတိုင်း ကုမ္ပဏီမှ ကျခံရမည် ဖြစ်ပါသည်။

## ၄။ စိစစ်တင်ပြချက်

(က) ကုမ္ပဏီမှ ငှားရမ်းထားသည့် မြေတွင် နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန် ကရစ် အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ်များ ထုတ်လုပ်ရန် တစ်နေ့လျှင် အုတ်လုံးရေ(၃၅၀၀၀၀)ကျ စက်ရုံ(၃)ရုံ တည်ဆောက်မည်ဟု တင်ပြထားပါသည်။

(ခ) ယခုတင်ပြသော အဆိုပြုချက်မှာ လုပ်ငန်းသစ် ဆောင်ရွက်ခြင်း သီးသန့် မဟုတ်ပဲ ရှိပြီး အစိုးရပိုင် ပုံသေ(Asset)များကို နှစ်ရှည်ငှားရမ်း၍ ပုဂ္ဂလိက

(ခ) ငှားရမ်းခနှုန်းထားမှာ အုတ်ထုတ်လုပ်ရေး စက်ရုံ(တညင်းကုန်း)ပိုင် စက်ရုံမြေ၊ ကုန်ကြမ်းမြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးကိရိယာများ၊ ယာဉ်၊ ယန္တရားများနှင့် ဖော့ကန်ဆိပ်ကမ်းမြေ အပါအဝင် တစ်နှစ်လျှင် ကျပ် (၂၉၅.၃၂၂)သန်း ဖြစ်ပါသည်။ အငှားချထားခြင်းခံရသူသည် (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကို (၃)လတစ်ကြိမ်၊ (၃)လပြည့်သည့်လ၏ နောက်ဆုံးပတ်တွင် ပေးသွင်းရပါမည်။ ငှားရမ်းခကို (၆)လတစ်ကြိမ် ပြန်လည်သုံးသပ်ပြီး နှစ်ဦး သဘောတူ ညှိနှိုင်းပြင်ဆင် သတ်မှတ်နိုင်ပါသည်။

(ဂ) အငှားချထားခြင်းခံရသူသည် မြေအသုံးချမှု ပရီမီယံကြေး အနေဖြင့် ဖော့ကန် ဆိပ်ကမ်းမြေ(၂၃.၂၉)ဧကအား (၁၅)နှစ် ငှားရမ်းခြင်းအတွက် ကျပ်(၁၂၄၄.၁၆၁)သန်း ပေးသွင်းရပါမည်။

(ဃ) အငှားချထားခြင်း ခံရသူသည် ဘဏ်အာမခံ (Bank Guarantee) အနေဖြင့် ငှားရမ်းခငွေ၏ (၁၀)%နှင့်ညီမျှသော ကျပ် (၂၉.၅၀၀)သန်းအား ပေးသွင်းရပါမည်။

(င) အငှားချထားခြင်းခံရသူအနေဖြင့် လုပ်ငန်းများတိုးချဲ့ခြင်း၊ စက်ပစ္စည်းများ ထပ်မံတိုးချဲ့ တပ်ဆင်ခြင်းများကို အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရပါမည်။ အငှားချထားခြင်းခံရသူသည် မြေနေရာ လွတ်များတွင် အဆောက်အဦသစ် ဆောက်လုပ်လိုပါက အငှားချထားသူ၏ ခွင့်ပြုချက်ကို ရယူရမည် ဖြစ်ပြီး မြေငှားခ အဖိုးစားနားအား နှစ်ဖက်ညှိနှိုင်း သတ်မှတ် ဆောင်ရွက်ရပါမည်။

(စ) စက်ရုံတွင် လက်ရှိ တာဝန် ထမ်းဆောင်နေသော ဝန်ထမ်း(၄၁၁)ဦးကို ကုမ္ပဏီသို့ လွှဲပြောင်းပေးမည်ဖြစ်ပြီး ဝန်ထမ်းလစာ နှစ်တိုးစရိတ်များအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများအတိုင်း ကုမ္ပဏီမှ ကျခံရမည် ဖြစ်ပါသည်။

## ၄။ စိစစ်တင်ပြချက်

(က) ကုမ္ပဏီမှ ငှားရမ်းထားသည့် မြေတွင် နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန် ကရစ် အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ်များ ထုတ်လုပ်ရန် တစ်နေ့လျှင် အုတ်လုံးရေ(၃၅၀၀၀၀)ကျ စက်ရုံ(၃)ရုံ တည်ဆောက်မည်ဟု တင်ပြထားပါသည်။

(ခ) ယခုတင်ပြသော အဆိုပြုချက်မှာ လုပ်ငန်းသစ် ဆောင်ရွက်ခြင်း သီးသန့် မဟုတ်ပဲ ရှိပြီး အစိုးရပိုင် ပုံသေ(Asset)များကို နှစ်ရှည်ငှားရမ်း၍ ပုဂ္ဂလိက

Investment ထပ်ဆောင်းလုပ်ကိုင်သည့် လုပ်ငန်း ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဓ) * ယခုတင်ပြချက်နှင့် အလားတူ Delicious Food Ltd မှ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း၊ ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ်ရှိ အမှတ်(၆) သကြားစက်မြေနှင့် အဆောက်အဦအား နှစ်ရှည် ငှားရမ်း၍ သကြားထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်(၇/၂၀၁၂) (၂၉-၂-၂၀၁၂) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေး မှ အောက်ပါအတိုင်း ဆွေးနွေး/ ဆုံးဖြတ်ခဲ့ပါသည်-

**ဆွေးနွေးချက်**

- ကော်မရှင်ဥက္ကဋ္ဌ မှ ယခုကိစ္စမှာ ဝန်ကြီးဌာနပိုင် သကြားစက်ကို ငှားရမ်းလုပ်ကိုင်ခြင်းကိစ္စဖြစ်၍ သက်ဆိုင်ရာဝန်ကြီးဌာနမှတာဝန်ယူပြီး နိုင်ငံတော်သမ္မတရုံးသို့ သဘောတူညီချက် ရယူရန် တင်ပြပေးရမှာ ဖြစ်ကြောင်း၊ သဘောတူညီချက် ရပါက လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်ဖြစ်ကြောင်း၊ အာဆီယံစံချိန်စံညွှန်းနှင့်အညီ ကုန်ကြမ်းပစ္စည်း၊ စက်ပစ္စည်းများကို ပြည်ပမှ လွတ်လွတ်လပ်လပ် တင်သွင်းနိုင်ပါကြောင်း၊ သို့သော် နိုင်ငံတော်သို့ သတ်မှတ်ထားသည့် အခွန် ပေးဆောင်ရမှာဖြစ်ကြောင်း၊ ယခုကိစ္စမှာ ရင်းနှီးမြှုပ်နှံမှုနှင့် မသက်ဆိုင်သည့် ငှားရမ်းခြင်းကိစ္စသာဖြစ်၍ ကုန်ကြမ်းပစ္စည်း၊ စက်ပစ္စည်း နှင့် မော်တော် ယာဉ်များ တင်သွင်းခြင်းများအပေါ် အခွန်ကင်းလွတ်ခွင့် မပြုကြောင်း၊ လုပ်ငန်း အသစ် ရင်းနှီးမြှုပ်နှံမှု အသစ်ဖြစ်ပါက ခွင့်ပြုရန်ဖြစ်ကြောင်း ဆွေးနွေးပြော ကြားပါသည်။
- မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းမှ ဦးဆောင်ညွှန်ကြားရေးမှူး မှ ယခု လုပ်ငန်းသည် သကြားစက် ငှားရမ်းခြင်း နှင့် နိုင်ငံခြားမှ သကြားကုန်ကြမ်း တင်သွင်းပြီး သကြားထုတ်လုပ်ခြင်းဟူ၍ အပိုင်း(၂)ပိုင်း ရှိပါကြောင်း၊ Refined Sugar ထုတ်လုပ်ရန်အတွက် စက်ပစ္စည်းများ တင်သွင်းမှာဖြစ်ကြောင်း၊ ရင်းနှီး မြှုပ်နှံမှု လုပ်ငန်း အသစ်မဟုတ်ပါ၍ အများနည်းတူ ပေးရန် သင့်/မသင့် စဥ်းစားရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

**ဆုံးဖြတ်ချက်**

- Delicious Food Ltd မှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ် ရှိ အမှတ်(၆) သကြားစက် မြေ နှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စကို ခွင့်မပြုရန် ဆုံးဖြတ်ခဲ့ပါသည်။

၅။ သို့ပါ၍ Mother Industrial Co., Ltd. မှ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ကြီးကြပ်မှ လက်အောက်ရှိ တည်င်းကုန်း အုတ်ထုတ်လုပ်ရေး စက်ရုံ(စက်ရုံမြေ ၂၃၇.၆၂၉)ဧကနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖော့ကန်ဆိပ်ကမ်းမြေမှ တစိတ်တပိုင်း မြေဧရိယာ (၂၃.၂၉)ဧကတို့ကို နှစ်ရှည်ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်ရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ အပေါ် ကော်မရှင် ~~အစည်းအဝေးသို့ တင်ပြရန်~~ သင့်/မသင့် လမ်းညွှန်မှု ခံယူအပ်ပါသည်။

(သန့်စင်ကြိုင်)
ညွှန်ကြားရေးမှူး

ဒုတိယညွှန်ကြားရေးမှူးချုပ်

၆။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာ လ ရက်

အကြောင်းအရာ။ **Mother Industrial Co., Ltd. မှ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ကြီးကြပ်မှု လက်အောက်ရှိ တည်ငြင်းကုန်း အုတ်ထုတ်လုပ်ရေး စက်ရုံ(စက်ရုံမြေ ၂၃၇.၆၂၉)ကေနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖေါ့ကန်ဆိပ်ကမ်းမြေမှ တစိတ်တပိုင်း မြေဧရိယာ (၂၃.၂၉)ကေတို့ကို နှစ်ရှည်ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်ရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ Mother Industrial Co., Ltd. မှ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄) အကြီးစားစက်ရုံ(သာယာဝတီ)ကြီးကြပ်မှု လက်အောက်ရှိ တည်ငြင်းကုန်း အုတ်ထုတ်လုပ်ရေး စက်ရုံ(စက်ရုံမြေ ၂၃၇.၆၂၉)ကေနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖေါ့ကန်ဆိပ်ကမ်းမြေမှ တစိတ်တပိုင်း မြေဧရိယာ (၂၃.၂၉)ကေတို့ကို နှစ်ရှည်ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်ရန် အဆိုပြုချက် တင်ပြ လာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| - ငွေသားပမာဏ | ကျပ် | ၁၇၃၂.၀၉ သန်း | |
| - ကနဦးကုန်ကြမ်းစရိတ် | ကျပ် | ၁၉၄၀.၃၃ သန်း | |
| - အဆောက်အဦး | ကျပ် | ၆၃၀၀.၀၀ သန်း | |
| - စက်ပစ္စည်းကိရိယာများ | ကျပ် | ၈၃၆၄.၆၇ သန်း | (US$၉.၈၄သန်း အပါအဝင်) |
| - ရုံးသုံးပရိဘောဂ | ကျပ် | ၉၀.၀၀ သန်း | |
| - မော်တော်ယာဥ်များ | ကျပ် | ၁၈၂၃.၂၅ သန်း | (US$၂.၁၅သန်း အပါအဝင်) |
| - **စုစုပေါင်း** | **ကျပ်** | **၂၀၂၅၀.၃၄ သန်း** | (US$၁၁.၉၉သန်း အပါအဝင်) |

၃။ Mother Industrial Co., Ltd. သို့ တည်ငြင်းကုန်း အုတ်ထုတ်လုပ်ရေးစက်ရုံ (၂၃၇.၆၂၉)ကေနှင့် ဖေါ့ကန်ဆိပ်ကမ်းမြေ(၂၃.၂၉)ကေ ငှားရမ်းသည့် သဘောတူ စာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) အုတ်ထုတ်လုပ်ရေး စက်ရုံ(တည်ငြင်းကုန်း)နှင့် ဖေါ့ကန်ဆိပ်ကမ်းမြေ(၂၃.၂၉) ဧကကို Mother Trading Co., Ltd (အငှားချထားခြင်း ခံရသူ)သို့ ကနဦး(၁၅)နှစ်နှင့် သက်တမ်းတိုး တစ်ကြိမ်လျှင် (၅)နှစ်၊ (၃)ကြိမ်၊ စုစုပေါင်း(၃၀)နှစ် ဖြစ်ပါသည်။

Investment ထပ်ဆောင်းလုပ်ကိုင်သည့် လုပ်ငန်း ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ ယခုတင်ပြချက်နှင့် အလားတူ Delicious Food Ltd မှ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ်ရှိ အမှတ်(၆) သကြားစက် မြေနှင့် အဆောက်အဦအား နှစ်ရှည် ငှားရမ်း၍ သကြား ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်(၇/၂၀၁၂) (၂၉-၂-၂၀၁၂) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေး မှ အောက်ပါ အတိုင်း ဆွေးနွေး/ ဆုံးဖြတ်ခဲ့ပါသည်-

**ဆွေးနွေးချက်**

- ကော်မရှင်ဥက္ကဋ္ဌ မှ ယခုကိစ္စမှာ ဝန်ကြီးဌာနပိုင် သကြားစက်ကို ငှားရမ်းလုပ်ကိုင်ခြင်းကိစ္စဖြစ်၍ သက်ဆိုင်ရာဝန်ကြီးဌာနမှတာဝန်ယူပြီး နိုင်ငံတော်သမ္မတရုံးသို့ သဘောတူညီချက် ရယူရန် တင်ပြပေးရမှာ ဖြစ်ကြောင်း၊ သဘောတူညီချက် ရပါက လုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန်ဖြစ်ကြောင်း၊ အာဆီယံစံချိန်စံညွှန်းနှင့်အညီ ကုန်ကြမ်းပစ္စည်း၊ စက်ပစ္စည်းများကို ပြည်ပမှ လွတ်လွတ်လပ်လပ် တင်သွင်းနိုင်ပါကြောင်း၊ သို့သော် နိုင်ငံတော်သို့ သတ်မှတ်ထားသည့် အခွန် ပေးဆောင်ရမှာဖြစ်ကြောင်း၊ ယခုကိစ္စမှာ ရင်းနှီးမြှုပ်နှံမှုနှင့် မသက်ဆိုင်သည့် ငှားရမ်းခြင်းကိစ္စသာဖြစ်၍ ကုန်ကြမ်းပစ္စည်း၊ စက်ပစ္စည်း နှင့် မော်တော် ယာဉ်များ တင်သွင်းခြင်းများအပေါ် အခွန်ကင်းလွတ်ခွင့် မပြုကြောင်း၊ လုပ်ငန်း အသစ် ရင်းနှီးမြှုပ်နှံမှု အသစ်ဖြစ်ပါက ခွင့်ပြုရန်ဖြစ်ကြောင်း ဆွေးနွေးပြော ကြားပါသည်။ ပူးတွဲ (က)
- မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းမှ ဦးဆောင်ညွှန်ကြားရေးမှူး မှ ယခု လုပ်ငန်းသည် သကြားစက် ငှားရမ်းခြင်း နှင့် နိုင်ငံခြားမှ သကြား ကုန်ကြမ်း တင်သွင်းပြီး သကြားထုတ်လုပ်ခြင်းဟူ၍ အပိုင်း(၂)ပိုင်း ရှိပါကြောင်း၊ Refined Sugar ထုတ်လုပ်ရန်အတွက် စက်ပစ္စည်းများ တင်သွင်းမှာ ဖြစ်ကြောင်း၊ ရင်းနှီး မြှုပ်နှံမှု လုပ်ငန်း အသစ် မဟုတ်ပါ၍ အများနည်းတူ ပေးရန် သင့်/မသင့် စဉ်းစားရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

**ဆုံးဖြတ်ချက်**

- Delicious Food Ltd မှ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ ပဲခူးတိုင်းဒေသကြီး၊ ရေတာရှည်မြို့နယ် ရှိ အမှတ်(၆) သကြားစက် မြေ နှင့် အဆောက်အဦအား နှစ်ရှည်ငှားရမ်း၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း ကိစ္စကို ခွင့်မပြုရန် ဆုံးဖြတ်ခဲ့ပါသည်။ ပူးတွဲ (ခ)

၆။ ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co., Ltd တည်ထောင်ပြီး ကွန်ကရစ်အုတ်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်(၃၁/၂၀၁၂) (၁၇-၁၀-၂၀၁၂) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေး မှ အဆိုပြုခြင်းကို သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ ပူးတွဲ (ဂ)

၇။ သို့ပါ၍ Mother Industrial Co., Ltd. မှ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ကြီးကြပ်မှု လက်အောက်ရှိ တညင်းကုန်း အုတ်ထုတ်လုပ်ရေး စက်ရုံ (စက်ရုံမြေ ၂၃၇.၆၂၉)ဧကနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖော့ကန်ဆိပ်ကမ်းမြေမှ တစိတ်တပိုင်း မြေဧရိယာ (၂၃.၂၉)ဧကတို့ကို နှစ်ရှည်ငှားရမ်း၍ နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်ရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

(သန့်စင်ကြိုင်)
ညွှန်ကြားရေးမှူး

**ဒုတိယညွှန်ကြားရေးမှူးချုပ်**

၇။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/န-၇၀၃/၂၀၁၂(၁၁၄၆၉)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co, Ltd. တည်ထောင်ပြီး ကွန်ကရစ်အုတ်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

၁။ ကိုရီးယားသမ္မတနိုင်ငံ Mr. Yun Jong Seol မှ ၅၁% နှင့် Mr. Kim Soonki မှ ၄၉% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co,Ltd. တည်ထောင်ကာ အမှတ်(၂၉၈)၊ မာလာမြိုင်လမ်း၊ စက်မှုဇုန်ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ ၁.၄၆၀ ဧက (၅၉၁၀.၅၀ စတုရန်းမီတာ) မှ တစ်စိတ်တစ်ပိုင်း ဖြစ်သော မြေ ၀.၇၂၈ ဧက (၂၉၄၆.၁၁၄ စတုရန်းမီတာ) ကို ငှားရမ်းကာ ကွန်ကရစ်အုတ်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကိုဆောင် ရွက်ခွင့်ပြု ပါရန် ကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ မြေပိုင်ရှင် ဦးကျော်ကျော်ဦးနှင့် MK Housing Co,Ltd. တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)နှင့် မြေဂရန်မိတ္တူများ၊ လုပ်ငန်းတည်နေရာပြ မြေပုံ၊ လုပ်ငန်းတွင် အသုံးပြုမည့် ပစ္စည်းများ၏ထုတ်လုပ်မည့် ဒီဇိုင်းများ၊ ထုတ်လုပ်မည့် ကွန်ကရစ် အုတ်များ၏ ပုံစံများ Layout Section Chart များ၊ MOA & AOA များကို ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ US$ ၀.၅၅၀သန်း ဖြစ်ပြီး ၎င်းတွင် ငွေသား US$ ၀.၂၁၈သန်း နှင့် စက်နှင့် စက်ပစ္စည်း US$ ၀.၃၃၂သန်း တို့ပါဝင်ပါသည်။ လုပ်ငန်းစီမံ ကိန်း၏ သက်တမ်း ကာလမှာ (၁၅) နှစ်နှင့် တည်ဆောက်မှုကာလ (၂)လ ဖြစ်ပါသည်။

၄။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၀.၇၂၈ ဧက (၂၉၄၆.၁၁၄ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခနှုန်းမှာ US$ ၁၂,၀၀၀(တစ်စတု ရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၄.၀၇၃ နှုန်း) ဖြစ်ပါသည်။

၅။ **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ** အဆိုပြုမြေနေရာသည် စက်မှုဇုန်အတွင်း ဆောင်ရွက်သွား မည်ဖြစ်ခြင်းကြောင့် မြို့ပြစီမံကိန်းများနှင့် ကိုက်ညီမှုရှိပါကြောင်း၊ ပြည်သူတို့၏ လူမှုစီးပွားရေးကိုလည်း ထိခိုက်နိုင်မှု မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းသည် ဘိလပ်မြေ(၁)ဆနှင့် သဲကြမ်း (၉)ဆ ရောစပ်၍ ဆောင်ရွက်သွားမည်ဖြစ်ပြီး သဲကြမ်းအား conveyor ဖြင့် သယ်ယူ ခြင်း၊ သဲကြမ်းနှင့် ဘိလပ်မြေတို့အား ဖျော်စက်ဖြင့် ဖျော်၍ စက်ဖြင့်ပုံလောင်းထုတ်လုပ်ခြင်း တို့ကို ဆောင်ရွက်မည်ဖြစ်သဖြင့် သဘာဝပတ်ဝန်း ကျင်ကို ထိခိုက်မှုမရှိနိုင်ပါကြောင်း၊ အဆိုပြု လုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက ပြည်သူများ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်းနှင့်

ရန်ကုန်တိုင်းဒေသကြီး အစိုးရ အဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၄/၂၀၁၂)အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။

၆။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** MK Housing Co,Ltd. မှ ကွန်ကရစ်အုတ်နှင့် ဘလောက်တုံးများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ် လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန် အတွက် လုပ်ငန်းလည်ပတ် ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့တွင် ပတ်ဝန်းကျင်ထိခိုက် ပျက်စီးမှု အနည်းဆုံးဖြစ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များကို ရေးဆွဲဆောင်ရွက်သွားရန်နှင့် ကုန်ပစ္စည်း ထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှားများနှင့် စွန့်ပစ်ပစ္စည်းများ/ အရည်များနှင့် စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်စက်ဆီချောဆီများ စသည် တို့ကို စနစ်တကျစီမံခန့်ခွဲမှု မရှိပါက ပတ်ဝန်းကျင်လေထု၊ ရေထုနှင့် မြေထုကို ထိခိုက်နိုင်သောကြောင့် ပတ်ဝန်းကျင်နှင့် လူတို့၏ ကျန်းမာရေးကို ထိခိုက်မှုမရှိစေရန် ထည့်သွင်းရေးဆွဲ ဆောင်ရွက်ရန်လိုကြောင်းနှင့် သဘာဝပတ်ဝန်း ကျင်ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကို ကြိုတင်လေ့လာ ဆန်းစစ်ပြီး (Initial Environmental Examination)/ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအမံ (Environmental Management Plan) ရေးဆွဲအကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း သဘောထားပြန် ကြားထားပါသည်။

၇။ **စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ** MK Housing Co,Ltd. မှ ကွန်ကရစ်အုတ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မျှတမှုရှိပါကြောင်း၊ အဆိုပြုလွှာအရ အကျယ်အဝန်းမှာ ၀.၇၂၈ ဧကသာရှိသဖြင့် လုပ်ငန်းဆောင် ရွက်ရန်အတွက် လုံလောက်သော မြေအကျယ်အဝန်းရှိရန် လိုအပ်ပါကြောင်းနှင့် တည်ဆဲ ဥပဒေများနှင့် ညီပါကကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

၈။ လုပ်ငန်းမှ ထွက်ရှိသော ကွန်ကရစ်အုတ်များအားလုံးကို ပြည်တွင်း၌ ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှု မှာ ပျမ်းမျှနှစ်တွင် အုတ်လုံးရေ ၁၂,၈၈၇,၉၄၀ ဖြစ်ပြီး အုတ်တစ်လုံး၏ ရောင်းဈေးနှုန်းမှာ ကျပ် ၇၀ ခန့် ဖြစ်ပါကြောင်း ဖော်ပြထားပါသည်။

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပျမ်းမျှနှစ်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | (US$) သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၁.၀၆၁ |
| (ခ) | အသုံးစရိတ် | ၀.၈၅၁ |
| (ဂ) | အသားတင်အမြတ် | ၀.၂၁၀ |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၂နှစ်နှင့် ၆လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၄၄% ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပျမ်းမျှနှစ်တွင်ရရှိမည့် ဝင်ငွေခွန် မှာUS$ ၅၁,၈၃၅ နှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ US$ ၅၀,၅၄၁ဖြစ်ပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပြည်တွင်းမှ ဝန်ထမ်း (၂၀) ဦးနှင့် ပြည်ပမှ (၂) ဦး စုစုပေါင်း (၂၂)ဦး ခန့်ထားနိုင်မည်ဖြစ်ပြီး စက်ရုံမှာ ခေတ်မီစက်ပစ္စည်းများကို အသုံးပြု၍ ထုတ်လုပ်မည့် လုပ်ငန်းဖြစ်သဖြင့် စက်များကိုကြီးကြပ်ကိုင်တွယ်မည့် လုပ်သားအင်အားကို (၂၀)ဦး ခန့် ထားခြင်းဖြစ်သော်လည်း နောင်လုပ်ငန်းတိုးချဲ့လာသည်နှင့် အမျှလုပ်သားအင်အား ကို(၅၀) ခန့် အထိ ထပ်မံတိုးမြှင့် ခန့်ထားမည်ဖြစ်ပါသည်။ အလုပ်သမားများခန့်ထားရာတွင်လည်း ပြည်တွင်းလုပ်သားများကိုသာ ခန့်ထားမည်ဖြစ်ပြီး၊ အလုပ်သမားများကိုလည်း လက်ရှိဖြစ်ပေါ်လျှက်ရှိသော လစာနှုန်းထားများ ထက်မနိမ့်ကျစေပဲ ပေးသွားမည်ဖြစ်ပြီး၊ အလုပ်သမားများ၏ အကျိုးခံစားခွင့်များကို အလုပ်သမားဥပဒေနှင့် အညီ လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါ သည်။ ထွက်ရှိပြဋ္ဌာန်းထားသည့် လူမှုဖူလုံရေးဥပဒေနှင့် အညီလည်း လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါသည်။ ဝန်ထမ်းတစ်ဦး၏ အခြေခံလစာအား တစ်လလျှင် ကျပ် ၈၅၀၀၀ နှုန်း သတ်မှတ်ထားပါသည်။

၁၃။ စွန့်ပစ်ပစ္စည်းများကို စနစ်တကျထုလျှော့လျှက် ပြန်လည်အသုံးပြုခြင်းအားဖြင့် စွန့်ပစ် ပစ္စည်းများများစားစားထွက်ရှိမည် မဟုတ်သဖြင့် ပတ်ဝန်းကျင်ကို ထိခိုက်နိုင်ခြင်းမရှိပါ။ မိမိတို့သည် ကွန်ကရစ်အုတ်များကို စက်ဖြင့်သာ ပြုလုပ်မည်ဖြစ်ပါသည်။ ပျက်စီးမှု မရှိသလောက်နည်း ပါးမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုလုပ်ငန်းမှ ထွက်ရှိလာသော အမှုန့်များ အထူးသဖြင့် ဘိလပ်မြေများကို လုံခြုံသေသပ်စွာထားရှိပြီး၊ ကိုင်တွယ်ပုံနည်းစနစ်များကို သေသေသပ်သပ် ကိုင်တွယ်မည် ဖြစ်ပါသည်။ အလုပ်သမားများအတွက် လုပ်ငန်းခွင်သုံး ဝတ်စုံများ၊ ခေါင်းစွပ်၊ ဘိနပ်၊ မျက်နှာစည်း (Mask)များ တပ်ဆင်မည်ဖြစ်ပါသည်။ ထို့အပြင် စက်ရုံအတွင်းမှ အမှုန်များကို Dust Collectorမှ စုတ်ယူပြီး၊ စွန့်ပစ်ပစ္စည်းများအဖြစ် စွန့်ပစ်မည်ဖြစ်ပါသည်။ အလုပ်သမား များအတွက် နှစ်စဉ်ဖြစ်စေ၊ (၆)လ တစ်ကြိမ်ဖြစ်စေ၊ ကျန်းမာရေးစစ်ဆေးမှုများ ပြုလုပ်သွား မည်ဖြစ်ပါသည်။

၁၄။ MK Housing Co,Ltd. မှ လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားသက်သာ ချောင်ချိရေးအတွက် အလုပ်သမားများ ဗဟုသုတတိုးပွားစေရန် စာကြည့်တိုက်တစ်ခုဖွင့်လှစ်ပေးခြင်း၊ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ပမာဏကုသမှု လုပ်ငန်းဆောင်ရွက်နိုင်ရန် ကျန်းမာရေးဆေးခန်း ကိုလည်း စီစဉ်ထားခြင်း၊ ပတ်ဝန်းကျင်စိမ်းလန်းသာယာရေးအတွက် ပန်းခြံများ၊ သစ်ပင်များစိုက်ပျိုး၍ ပတ်ဝန်းကျင်သာယာမှုရှိစေရန် ဆောင်ရွက်ပေးခြင်း၊ အလုပ်သမားများ ထမင်းစား ဆောင်ကိုလည်းတည်ဆောက်ပြီး ထမင်းစာခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးခြင်း၊ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျှက် အလုံ အလောက်တည်ဆောက်ပေးခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ စက်ရုံဝန်းကျင် သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ် မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန်၊ အစီအစဉ်များကို ဆောင်ရွက်ခြင်း၊ ပတ်ဝန်းကျင်ဆူညံခြင်း မရှိစေရန်နှင့် အလင်းရောင် လေဝင်၊ လေထွက် ကောင်းစေရန် ဆောင်ရွက်ထားခြင်းနှင့် လုံခြုံရေးဂိတ်များထားရှိပြီး၊ စက်ရုံလုံခြုံရေး၊ ဝန်ထမ်းလုံခြုံရေး၊ မီးဘေးလုံခြုံရေးများ စီစဉ်ထားရှိမည်ဖြစ်ကြောင်း၊ အဆိုပါကွန်ကရစ် အုတ်ထုတ်လုပ်သည့် စက်အမျိုးအစားများကို လက်ရှိကိုရီးယားနိုင်ငံတွင် အသုံးပြုလျှက်ရှိပြီး နည်းပညာ မြင့်မားပြီး အသံဆူညံမှု မရှိပါ။ ၎င်းစက်များသည် တစ်ရက်လျှင် ကွန်ကရစ်အုတ် အလုံးရေ (၃၀၀၀၀) မှ (၅၀၀၀၀)အထိ ထုတ်လုပ်နိုင်မည်ဖြစ်ပါသည်။ လိုအပ်သော ကုန်ကြမ်း များအားလုံးကိုလည်း ပြည်တွင်း၌ ဝယ်ယူအသုံးပြုမည်ဖြစ်ပါသည်။

၁၅။ အဆိုပြုမြေနေရာတွင် ၃၅၀ KW Transformer တပ်ဆင်ထားရှိပါသည်။ အသုံးပြုလည်ပတ်မည့် ကွန်ကရစ်အုတ်စက်၏ လျှပ်စစ်ဓာတ်အား သုံးစွဲမှုမှာ ၇၅ KW မှ ၁၀၀ KW အတွင်းသုံးစွဲမည်ဖြစ်ပါသည်။ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်မီးမရရှိသည့် အခါတွင် ကိုယ်ပိုင် Generator ဖြင့်သုံးစွဲသွားမည်ဖြစ်ပြီး၊ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား ရရှိမည်ဆိုပါက ကုန်ကျစရိတ်ပိုမိုသက်သာမည်ပါသည်။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု အနေဖြင့် ရေဂါလံ (၁၀,၀၀၀)ဆံ့ ရေလှောင်ကန်ကိုတည်ဆောက်ထားရှိမည်ဖြစ်ပြီး၊ စက်ရုံအ ဆောက်အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် Steel Structure ဖြင့် တည်ဆောက်ထားပြီး၊ ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါသည်။ စက်ရုံနံရံ များတွင် မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည်ဖြစ်ပါသည်။

၁၆။ Mr. Yun Jong Seol၏ ငွေရေး ကြေးရေး အထောက်အထားအဖြစ် ကိုရီးယားနိုင်ငံ ရှိ Standard Charted ဘဏ်တွင် (၂၈-၆-၂၀၁၂)နေ့တွင် အမေရိကန်ဒေါ်လာ ၉၀,၇၉၂.၁၇ ရှိကြောင်းတင်ပြချက်နှင့် Mr. Kim Soonki သည် (၂၈-၆-၂၀၁၂)နေ့တွင် Certificate of Balance on Deposit/ Money Trust ဖြင့် အမေရိကန်ဒေါ်လာ ၁၁၂,၅၄၁.၂၃ရှိကြောင်း တင်ပြထားပါသည်။

၁၇။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ (၂၁) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၈။ သို့ပါ၍ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co,Ltd. တည်ထောင်၍ အမှတ်(၂၉၈)၊ မာလာမြိုင်လမ်း၊ စက်မှုဇုန်ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန် တိုင်းဒေသကြီးရှိ မြေဧက ဝ.၇၂၈ တွင် ကွန်ကရစ်အုတ် ထုတ်လုပ်ချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(မြသူဇာ၊ အဖွဲ့ဝင်)

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်အဖွဲ့ဝင် ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနမှ ကျွမ်းကျင်သူ ဒေါ်မြသူဇာမှ မြန်မာနိုင်ငံသားမှ အသွင်ပြောင်းမှုများကို အခွန်အပြီးသတ်စည်းကြပ်ပြီးသည့် အခါမှသာ တင်ပြရန် လမ်းညွှန်ထားပါ၍အခွန်များ စည်းကြပ်ထားပြီးဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင် အစည်းအဝေးမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် White Owl Fashion Co., Ltd. တည်ထောင်ပြီးCMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန်သဘောတူကြောင်းဆုံးဖြတ်ပါသည်။

၅။ **ရာနူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co.,Ltd. တည်ထောင်ပြီး ကွန်ကရစ်အုတ် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဦးဟန်ဝင်းအောင် မှ အမှာစာကို ရှင်းလင်းတင်ပြပါသည်။

အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံသူမှ ဆောင်ရွက်မည့် လုပ်ငန်း၏ အဓိကအချက်အလက်များကို ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အတွင်းရေးမှူး ပြည်ထောင်စုဝန်ကြီး ဦးတင်နိုင်သိန်းမှ လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများကို မည်သည့်နေရာမှ ရယူမည်ကိုမေးမြန်းပြီး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကို အလေးထားဆောင်ရွက်သင့်ကြောင်း မှာကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင် မြန်မာနိုင်ငံအင်ဂျင်နီယာ အသင်း၏ ဥက္ကဋ္ဌ ဦးဝင်းခိုင်မှ အုတ်ထုတ်လုပ်မည့် နည်းလမ်းကို မေးမြန်းပါသည်။

ရင်းနှီးမြှုပ်နှံသူမှ လုပ်ငန်းအတွက် လိုအပ်သော သဲကြမ်းနှင့် ဘိလပ်မြေများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ကြောင်းနှင့် စက်ရုံ၏တည်နေရာမှာ ပုဇွန်တောင်ချောင်းနှင့် နီးကပ်စွာရှိခြင်းကြောင့် သဲများကို သဲကျင်းများမှ ဝယ်ယူမည်ဖြစ်ပါကြောင်း၊ Dry Process ကို အသုံးပြုမည်ဖြစ်ပါ၍ လေထုညစ်ညမ်းမှု နည်းပါးပါကြောင်း၊ ထုတ်လုပ်မည့်အုတ်များမှာ ခိုင်ခံ့မှုရှိပြီး ပြည်တွင်း ဈေးကွက်တွင် ရောင်းချမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်စီးပွားရေးပညာရှင်ဒေါက်တာ အောင်ထွန်းသက်မှ မြန်မာနိုင်ငံတွင်ဆောင်ရွက်မည့် ယခုလုပ်ငန်းမျိုးကို အခြားမည်သည့်နိုင်ငံများတွင် ဆောင်ရွက်နေကြောင်းမေးမြန်းရာ ရင်းနှီးမြှုပ်နှံသူမှ မိခင်နိုင်ငံကိုရီးယားနှင့် ထိုင်းနိုင်ငံ များတွင်ဆောင်ရွက်လျက်ရှိပါကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးမှ ရာနူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် MK Housing Co.,Ltd. တည်ထောင်ပြီး ကွန်ကရစ် အုတ် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် အဆိုပြုခြင်းကို သဘောတူကြောင်း ဆုံးဖြတ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/န-၇၀၃/၂၀၁၂(၁၁၄၆၉)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့်အမှာစာ**

အကြောင်းအရာ။ **ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co, Ltd. တည်ထောင်ပြီး ကွန်ကရစ်အုတ်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

၁။ ကိုရီးယားသမ္မတနိုင်ငံ Mr. Yun Jong Seol မှ ၅၁% နှင့် Mr. Kim Soonki မှ ၄၉% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co,Ltd. တည်ထောင်ကာ အမှတ်(၂၉၈)၊ မာလာမြိုင်လမ်း၊ စက်မှုဇုန်ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁.၄၆၀ ဧက (၅၉၁၀.၅၀ စတုရန်းမီတာ) မှ တစ်စိတ်တစ်ပိုင်း ဖြစ်သော မြေ ၀.၇၂၈ ဧက (၂၉၄၆.၁၁၄ စတုရန်းမီတာ) ကို ငှားရမ်းကာ ကွန်ကရစ်အုတ်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြု ပါရန် ကော်မရှင်သို့ အဆိုပြုလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ မြေပိုင်ရှင် ဦးကျော်ကျော်ဦးနှင့် MK Housing Co,Ltd. တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)နှင့် မြေဂရန်မိတ္တူများ၊ လုပ်ငန်းတည်နေရာပြ မြေပုံ၊ လုပ်ငန်းတွင် အသုံးပြုမည့် ပစ္စည်းများ၏ ထုတ်လုပ်မည့် ဒီဇိုင်းများ၊ ထုတ်လုပ်မည့် ကွန်ကရစ် အုတ်များ၏ ပုံစံများ Layout Section Chart များ၊ MOA & AOA များကို ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ US$ ၀.၅၅၀သန်း ဖြစ်ပြီး ၎င်းတွင် ငွေသား US$ ၀.၂၁၈သန်း နှင့် စက်နှင့် စက်ပစ္စည်း US$ ၀.၃၃၂သန်း တို့ပါဝင်ပါသည်။ လုပ်ငန်းစီမံ ကိန်း၏ သက်တမ်းကာလမှာ (၁၅) နှစ်နှင့် တည်ဆောက်မှုကာလ (၂)လ ဖြစ်ပါသည်။

၄။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၀.၇၂၈ ဧက (၂၉၄၆.၁၁၄ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခနှုန်းမှာ US$ ၁၂,၀၀၀(တစ်စတု ရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၄.၀၇၃ နှုန်း) ဖြစ်ပါသည်။

၅။ **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ** အဆိုပြုမြေနေရာသည် စက်မှုဇုန်အတွင်း ဆောင်ရွက်သွားမည်ဖြစ်ခြင်းကြောင့် မြို့ပြစီမံကိန်းများနှင့် ကိုက်ညီမှုရှိပါကြောင်း၊ ပြည်သူတို့၏ လူမှုစီးပွားရေးကိုလည်း ထိခိုက်နိုင်မှု မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းသည် ဘိလပ်မြေ(၁)ဆနှင့် သဲကြမ်း (၉)ဆ ရောစပ်၍ ဆောင်ရွက်သွားမည်ဖြစ်ပြီး သဲကြမ်းအား conveyor ဖြင့် သယ်ယူ ခြင်း၊ သဲကြမ်းနှင့် ဘိလပ်မြေတို့အား ဖျော်စက်ဖြင့် ဖျော်၍ စက်ဖြင့်ပုံလောင်းထုတ်လုပ်ခြင်း တို့ကို ဆောင်ရွက်မည်ဖြစ်သဖြင့် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုမရှိနိုင်ပါကြောင်း၊ အဆိုပြု လုပ်ငန်းလည်ပတ်လုပ်ကိုင်ပါက ပြည်သူများ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်းနှင့်

ရန်ကုန်တိုင်းဒေသကြီး အစိုးရ အဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၄/၂၀၁၂)အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။

၆။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** MK Housing Co,Ltd. မှ ကွန်ကရစ်အုတ်နှင့် ဘလောက်တုံးများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ် လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန် အတွက် လုပ်ငန်းလည်ပတ် ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့တွင် ပတ်ဝန်းကျင်ထိခိုက် ပျက်စီးမှု အနည်းဆုံးဖြစ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များကို ရေးဆွဲဆောင်ရွက်သွားရန်နှင့် ကုန်ပစ္စည်း ထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှားများနှင့် စွန့်ပစ်ပစ္စည်းများ/ အရည်များနှင့် စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်စက်ဆီချောဆီများ စသည် တို့ကို စနစ်တကျစီမံခန့်ခွဲမှု မရှိပါက ပတ်ဝန်းကျင်လေထု၊ ရေထုနှင့် မြေထုကို ထိခိုက်နိုင်သောကြောင့် ပတ်ဝန်းကျင်နှင့် လူတို့၏ ကျန်းမာရေးကို ထိခိုက်မှုမရှိစေရန် ထည့်သွင်းရေးဆွဲ ဆောင်ရွက်ရန်လိုကြောင်းနှင့် သဘာဝပတ်ဝန်း ကျင်ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကို ကြိုတင်လေ့လာ ဆန်းစစ်ပြီး (Initial Environmental Examination)/ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအမံ (Environmental Management Plan) ရေးဆွဲအကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း သဘောထားပြန် ကြားထားပါသည်။

၇။ **စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ** MK Housing Co,Ltd. မှ ကွန်ကရစ်အုတ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မျှတမှုရှိပါကြောင်း၊ အဆိုပြုလွှာအရ အကျယ်အဝန်းမှာ ၀.၇၂၈ ဧကသာရှိသဖြင့် လုပ်ငန်းဆောင် ရွက်ရန်အတွက် လုံလောက်သော မြေအကျယ်အဝန်းရှိရန် လိုအပ်ပါကြောင်းနှင့် တည်ဆဲ ဥပဒေများနှင့် ညီပါကကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။

၈။ လုပ်ငန်းမှ ထွက်ရှိသော ကွန်ကရစ်အုတ်များအားလုံးကို ပြည်တွင်း၌ ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှု မှာ ပျမ်းမျှနှစ်တွင် အုတ်လုံးရေ ၁၂,၈၈၇,၉၄၀ ဖြစ်ပြီး အုတ်တစ်လုံး၏ ရောင်းဈေးနှုန်းမှာ ကျပ် ၇၀ ခန့် ဖြစ်ပါကြောင်း ဖော်ပြထားပါသည်။

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပျမ်းမျှနှစ်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | (US$) သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၁.၀၆၁ |
| (ခ) | အသုံးစရိတ် | ၀.၈၅၁ |
| (ဂ) | အသားတင်အမြတ် | ၀.၂၁၀ |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၂နှစ်နှင့် ၆လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၄၄% ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပျမ်းမျှနှစ်တွင်ရရှိမည့် ဝင်ငွေခွန် မှာUS$ ၅၁,၈၃၅ နှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ US$ ၅၀,၅၄၁ဖြစ်ပါသည်။

ရန်ကုန်တိုင်းဒေသကြီး အစိုးရ အဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၄/၂၀၁၂)အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။

၆။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ** MK Housing Co,Ltd. မှ ကွန်ကရစ်အုတ်နှင့် ဘလောက်တုံးများ ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ် လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန် အတွက် လုပ်ငန်းလည်ပတ် ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့တွင် ပတ်ဝန်းကျင်ထိခိုက် ပျက်စီးမှု အနည်းဆုံးဖြစ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များကို ရေးဆွဲဆောင်ရွက်သွားရန်နှင့် ကုန်ပစ္စည်း ထုတ်လုပ်ခြင်းမှ ထွက်ရှိလာမည့် အမှုန်အမွှားများနှင့် စွန့်ပစ်ပစ္စည်းများ/ အရည်များနှင့် စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်စက်ဆီချောဆီများ စသည် တို့ကို စနစ်တကျစီမံခန့်ခွဲမှု မရှိပါက ပတ်ဝန်းကျင်လေထု၊ ရေထုနှင့် မြေထုကို ထိခိုက်နိုင်သောကြောင့် ပတ်ဝန်းကျင်နှင့် လူတို့၏ ကျန်းမာရေးကို ထိခိုက်မှုမရှိစေရန် ထည့်သွင်းရေးဆွဲ ဆောင်ရွက်ရန်လိုကြောင်းနှင့် သဘာဝပတ်ဝန်း ကျင်ထိခိုက်ပျက်စီးမှု ရှိ/မရှိ ကို ကြိုတင်လေ့လာ ဆန်းစစ်ပြီး (Initial Environmental Examination)/ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအမံ (Environmental Management Plan) ရေးဆွဲအကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ကြောင်း သဘောထားပြန် ကြားထားပါသည်။

၇။ **စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနမှ** MK Housing Co,Ltd. မှ ကွန်ကရစ်အုတ်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မျှတမှုရှိပါကြောင်း၊ အဆိုပြုလွှာအရ အကျယ်အဝန်းမှာ ၀.၇၂၈ ဧကသာရှိသဖြင့် လုပ်ငန်းဆောင် ရွက်ရန်အတွက် လုံလောက်သော မြေအကျယ်အဝန်းရှိရန် လိုအပ်ပါကြောင်းနှင့် တည်ဆဲ ဥပဒေများနှင့် ညီပါကကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

၈။ လုပ်ငန်းမှ ထွက်ရှိသော ကွန်ကရစ်အုတ်များအားလုံးကို ပြည်တွင်း၌ ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှု မှာ ပျမ်းမျှနှစ်တွင် အုတ်လုံးရေ ၁၂,၈၈၇,၉၄၀ ဖြစ်ပြီး အုတ်တစ်လုံး၏ ရောင်းဈေးနှုန်းမှာ ကျပ် ၇၀ ခန့် ဖြစ်ပါကြောင်း ဖော်ပြထားပါသည်။

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပျမ်းမျှနှစ်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | (US$) သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၁.၀၆၁ |
| (ခ) | အသုံးစရိတ် | ၀.၈၅၁ |
| (ဂ) | အသားတင်အမြတ် | ၀.၂၁၀ |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၂နှစ်နှင့် ၆လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၄၄% ဖြစ်ပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပျမ်းမျှနှစ်တွင်ရရှိမည့် ဝင်ငွေခွန် မှာUS$ ၅၁,၈၃၅ နှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ US$ ၅၀,၅၄၁ဖြစ်ပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပြည်တွင်းမှ ဝန်ထမ်း (၂၀) ဦးနှင့် ပြည်ပမှ (၂) ဦး စုစုပေါင်း (၂၂)ဦး ခန့်ထားနိုင်မည်ဖြစ်ပြီး စက်ရုံမှာ ခေတ်မီစက်ပစ္စည်းများကို အသုံးပြု၍ ထုတ်လုပ်မည့် လုပ်ငန်းဖြစ်သဖြင့် စက်များကိုကြီးကြပ်ကိုင်တွယ်မည့် လုပ်သားအင်အားကို (၂၀)ဦး ခန့် ထားခြင်းဖြစ်သော်လည်း နောင်လုပ်ငန်းတိုးချဲ့လာသည်နှင့် အမျှလုပ်သားအင်အား ကို(၅၀) ခန့် အထိ ထပ်မံတိုးမြှင့်ခန့်ထားမည်ဖြစ်ပငါသည်။ . အလုပ်သမားများခန့်ထားရာတွင်လည်း ပြည်တွင်းလုပ်သားများကိုသာ ခန့်ထားမည်ဖြစ်ပြီး၊ အလုပ်သမားများကိုလည်း လက်ရှိဖြစ်ပေါ်လျှက်ရှိသော လစာနှုန်းထားများ ထက်မနိမ့်ကျစေပဲ ပေးသွားမည်ဖြစ်ပြီး၊ အလုပ်သမားများ၏ အကျိုးခံစားခွင့်များကို အလုပ်သမားဥပဒေနှင့် အညီ လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါ သည်။ ထွက်ရှိပြဋ္ဌာန်းထားသည့် လူမှုဖူလုံရေးဥပဒေနှင့် အညီလည်း လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါသည်။ ဝန်ထမ်းတစ်ဦး၏ အခြေခံလစာအား တစ်လလျှင် ကျပ် ၈၅၀၀၀ နှုန်း သတ်မှတ်ထားပါသည်။

၁၃။ စွန့်ပစ်ပစ္စည်းများကို စနစ်တကျထုလျှော်လျှက် ပြန်လည်အသုံးပြုခြင်းအားဖြင့် စွန့်ပစ် ပစ္စည်းများများစားစားထွက်ရှိမည် မဟုတ်သဖြင့် ပတ်ဝန်းကျင်ကို ထိခိုက်နိုင်ခြင်းမရှိပါ။ မိမိတို့သည် ကွန်ကရစ်အုတ်များကို စက်ဖြင့်သာ ပြုလုပ်မည်ဖြစ်ပါသည်။ ပျက်စီးမှု မရှိသလောက်နည်း ပါးမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုလုပ်ငန်းမှ ထွက်ရှိလာသော အမှုန့်များ အထူးသဖြင့် ဘိလပ်မြေများကို လုံခြုံသေသပ်စွာထားရှိပြီး၊ ကိုင်တွယ်ပုံနည်းစနစ်များကို သေသေသပ်သပ် ကိုင်တွယ်မည် ဖြစ်ပါသည်။ အလုပ်သမားများအတွက် လုပ်ငန်းခွင်သုံး ဝတ်စုံများ၊ ခေါင်းစွပ်၊ ဘိနပ်၊ မျက်နှာစည်း (Mask)များ တပ်ဆင်မည်ဖြစ်ပါသည်။ ထို့အပြင် စက်ရုံအတွင်းမှ အမှုန်များကို Dust Collectorမှ စုတ်ယူပြီး၊ စွန့်ပစ်ပစ္စည်းများအဖြစ် စွန့်ပစ်မည်ဖြစ်ပါသည်။ အလုပ်သမား များအတွက် နှစ်စဉ်ဖြစ်စေ၊ (၆)လ တစ်ကြိမ်ဖြစ်စေ၊ ကျန်းမာရေးစစ်ဆေးမှုများ ပြုလုပ်သွား မည်ဖြစ်ပါသည်။

၁၄။ MK Housing Co,Ltd. မှ လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားသက်သာ ချောင်ချိရေးအတွက် အလုပ်သမားများ ဗဟုသုတတိုးပွားစေရန် စာကြည့်တိုက်တစ်ခုဖွင့်လှစ်ပေးခြင်း၊ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ပမာဏကုသမှု လုပ်ငန်းဆောင်ရွက်နိုင်ရန် ကျန်းမာရေးဆေးခန်း ကိုလည်း စီစဉ်ထားခြင်း၊ ပတ်ဝန်းကျင်စိမ်းလန်းသာယာရေးအတွက် ပန်းခြံများ၊ သစ်ပင်များစိုက်ပျိုး၍ ပတ်ဝန်းကျင်သာယာမှုရှိစေရန် ဆောင်ရွက်ပေးခြင်း၊ အလုပ်သမားများ ထမင်းစား ဆောင်ကိုလည်းတည်ဆောက်ပြီး ထမင်းစာခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးခြင်း၊ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျှက် အလုံ အလောက်တည်ဆောက်ပေးခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ စက်ရုံဝန်းကျင် သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ် မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန်၊ အစီအစဉ်များကို ဆောင်ရွက်ခြင်း၊ ပတ်ဝန်းကျင်ဆူညံခြင်း မရှိစေရန်နှင့် အလင်းရောင် လေဝင်၊ လေထွက် ကောင်းစေရန် ဆောင်ရွက်ထားခြင်းနှင့် လုံခြုံရေးဂိတ်များထားရှိပြီး၊ စက်ရုံလုံခြုံရေး၊ ဝန်ထမ်းလုံခြုံရေး၊ မီးဘေးလုံခြုံရေးများ စီစဉ်ထားရှိမည်ဖြစ်ကြောင်း၊ အဆိုပါကွန်ကရစ် အုတ်ထုတ်လုပ်သည့် စက်အမျိုးအစားများကို လက်ရှိကိုရီးယားနိုင်ငံတွင် အသုံးပြုလျှက်ရှိပြီး နည်းပညာ မြင့်မားပြီး အသံဆူညံမှု မရှိပါ။ ၎င်းစက်များသည် တစ်ရက်လျှင် ကွန်ကရစ်အုတ် အလုံးရေ (၃၀၀၀၀) မှ (၅၀၀၀၀)အထိ ထုတ်လုပ်နိုင်မည်ဖြစ်ပါသည်။ လိုအပ်သော ကုန်ကြမ်း များအားလုံးကိုလည်း ပြည်တွင်း၌ဝယ်ယူအသုံးပြုမည်ဖြစ်ပါသည်။

၁၅။ အဆိုပြုမြေနေရာတွင် ၃၅၀ KW Transformer တပ်ဆင်ထားရှိပါသည်။ အသုံးပြုလည် ပတ်မည့် ကွန်ကရစ်အုတ်စက်၏ လျှပ်စစ်စွမ်းအား သုံးစွဲမှုမှာ ၇၅ KW မှ ၁၀၀ KW အတွင်းသုံးစွဲမည် ဖြစ်ပါသည်။ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်မီးမရရှိသည့် အခါတွင် ကိုယ်ပိုင် Generator ဖြင့် သုံးစွဲသွားမည်ဖြစ်ပြီး၊ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား ရရှိမည်ဆိုပါက ကုန်ကျစရိတ်ပိုမိုသက်သာ မည်ပါသည်။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု အနေဖြင့် ရေဂါလံ (၁၀,၀၀၀)ဆံ့ ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ပြီး၊ စက်ရုံအ ဆောက်အအုံမှာလည်း မီးလောင်မှုမှ ကာကွယ်ရန် Steel Structure ဖြင့် တည်ဆောက်ထားပြီး၊ ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည် ဖြစ်ပါသည်။ စက်ရုံနံရံ များတွင် မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည်ဖြစ်ပါသည်။

၁၆။ Mr. Yun Jong Seol၏ ငွေရေး ကြေးရေး အထောက်အထားအဖြစ် ကိုရီးယားနိုင်ငံ ရှိ Standard Charted ဘဏ်တွင် (၂၈-၆-၂၀၁၂)နေ့တွင် အမေရိကန်ဒေါ်လာ ၉၀,၇၉၂.၁၇ ရှိကြောင်းတင်ပြချက်နှင့် Mr. Kim Soonki သည် (၂၈-၆-၂၀၁၂)နေ့တွင် Certificate of Balance on Deposit/ Money Trust ဖြင့် အမေရိကန်ဒေါ်လာ ၁၁၂,၅၄၁.၂၃ရှိကြောင်း တင်ပြထားပါသည်။

၁၇။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ (၂၁) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၈။ သို့ပါ၍ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co,Ltd. တည်ထောင်၍ အမှတ်(၂၉၈)၊ မာလာမြိုင်လမ်း၊ စက်မှုဇုန်ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန် တိုင်းဒေသကြီးရှိ မြေဧက ၀.၇၂၈ တွင် ကွန်ကရစ်အုတ် ထုတ်လုပ်ချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

(signature) ၂၁/၁၀/၁၂

အတွင်းရေးမှူး(ကိုယ်စား)
(မြသူဇာ၊ အဖွဲ့ဝင်)

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်အဖွဲ့ဝင် ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာနမှ ကျွမ်းကျင်သူ ဒေါ်မြသူဇာမှ မြန်မာနိုင်ငံသားမှ အသွင်ပြောင်းမှုများကို အခွန်အပြီးသတ်စည်းကြပ်ပြီးသည့် အခါမှသာ တင်ပြရန် လမ်းညွှန်ထားပါ၍အခွန်များ စည်းကြပ်ထားပြီးဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင် အစည်းအဝေးမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် White Owl Fashion Co., Ltd. တည်ထောင်ပြီးCMPစနစ်ဖြင့်အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရန်သဘောတူကြောင်းဆုံးဖြတ်ပါသည်။

၅။ **ရာနူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MK Housing Co.,Ltd. တည်ထောင်ပြီး ကွန်ကရစ်အုတ် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဦးဟန်ဝင်းအောင် မှ အမှာစာကို ရှင်းလင်းတင်ပြပါသည်။

အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံသူမှ ဆောင်ရွက်မည့် လုပ်ငန်း၏ အဓိကအချက်အလက်များကို ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အတွင်းရေးမှူး ပြည်ထောင်စုဝန်ကြီး ဦးတင်နိုင်သိန်းမှ လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်းများကို မည်သည့်နေရာမှ ရယူမည်ကိုမေးမြန်းပြီး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးကို အလေးထားဆောင်ရွက်သင့်ကြောင်း မှာကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင် မြန်မာနိုင်ငံအင်ဂျင်နီယာ အသင်း၏ ဥက္ကဋ္ဌ ဦးဝင်းခိုင်မှ အုတ်ထုတ်လုပ်မည့် နည်းလမ်းကို မေးမြန်းပါသည်။

ရင်းနှီးမြှုပ်နှံသူမှ လုပ်ငန်းအတွက် လိုအပ်သော သဲကြမ်းနှင့် ဘိလပ်မြေများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ကြောင်းနှင့် စက်ရုံ၏တည်နေရာမှာ ပုဇွန်တောင်ချောင်းနှင့် နီးကပ်စွာရှိခြင်းကြောင့် သဲများကို သဲကျင်းများမှ ဝယ်ယူမည်ဖြစ်ပါကြောင်း၊ Dry Process ကို အသုံးပြုမည်ဖြစ်ပါ၍ လေထုညစ်ညမ်းမှု နည်းပါးပါကြောင်း၊ ထုတ်လုပ်မည့်အုတ်များမှာ ခိုင်ခံ့မှုရှိပြီး ပြည်တွင်း ဈေးကွက်တွင် ရောင်းချမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်စီးပွားရေးပညာရှင်ဒေါက်တာ အောင်ထွန်းသက်မှ မြန်မာနိုင်ငံတွင်ဆောင်ရွက်မည့် ယခုလုပ်ငန်းမျိုးကို အခြားမည်သည့်နိုင်ငံများတွင် ဆောင်ရွက်နေကြောင်းမေးမြန်းရာ ရင်းနှီးမြှုပ်နှံသူမှ မိခင်နိုင်ငံကိုရီးယားနှင့် ထိုင်းနိုင်ငံ များတွင်ဆောင်ရွက်လျက်ရှိပါကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးမှ ရာနူန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် MK Housing Co.,Ltd. တည်ထောင်ပြီး ကွန်ကရစ် အုတ် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုခြင်းကို သဘောတူကြောင်း ဆုံးဖြတ်ပါသည်။

(၃၁/၂၀၁၉) (17.10.2019) ရ.

MIC အစည်းအဝေး ဆုံးဖြတ်ချက်

| | |
|---|---|
| (ဃ) ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဖြင့် MK Housing Co.,Ltd. တည်ထောင်ပြီး ကွန်ကရစ်အုတ် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် |

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာ လ ရက်

အကြောင်းအရာ။ **Mother Industrial Co., Ltd. မှ အပေါ့စားသဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်မည့် စက်ရုံ တည်ဆောက်ခွင့် ပြုပါရန် တင်ပြခြင်း ကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ သတင်းအချက်အလက် စုဆောင်း ရှာဖွေမြှင့်တင်ရေးအဖွဲ့ ၏ (၃၇/၂၀၁၂) (၉-၁၁-၂၀၁၂) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြမည့် **အမှာစာ(စာချော)** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(ဇာနည်ထွေး)
ဒုတိယ ဦးစီးမှူး

**လက်ထောက်ညွှန်ကြားရေး**

၂။ IICPT အမှာစာ (စာချော) တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

PHYU
7/11/2012
ဖြူဖြူမာ

ဒုတိယ-ညွှန်ကြားရေးမှူး

၃။ IICPT (၃၇/၁၂) (၉-၁၁-၁၂) အစည်းအဝေးကို တင်ပြမည့် အမှာစာ (စာချော) တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

8.11.12
အင်အင်ဦး

ညွှန်ကြားရေးမှူး

၄။

8/11

IICPT NS

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့

စာအမှတ်၊ ရက-၆(က)/မ-ထွေ/၂၀၁၂(၁၁၁၈၅)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ ၈ ရက်

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ သို့ တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Mother Industrial Co., Ltd. မှ အပေါ့စားသဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်မည့် စက်ရုံ တည်ဆောက်ခွင့် ပြုပါရန် တင်ပြခြင်း ကိစ္စ**

၁။ Mother Industrial Co., Ltd. မှ စက်မှုဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အောက်မင်္ဂလာဒုံလမ်း၊ တညင်းကုန်းရှိ အကြီးစားအုတ်စက်ရုံ(၃၄)၊ အလုပ်ရုံခွဲ(၃) အနီးရှိ မြေဧရိယာ (၉.၅)ဧကနှင့် အင်းစိန်မြို့နယ်၊ လှိုင်မြစ်ကမ်းဘေး၊ ဖော့ကန်ဆိပ်ကမ်းမြေရှိ မြေ(၂၃.၂၉)ဧကတို့အား ငှားရမ်း၍ ပေါ့ပါးခိုင်ခန့်ပြီး နိုင်ငံတကာ အဆင့်မီသည့် သဲ၊ ဘိလပ်မြေ၊ ထုံးအခြေခံ ကုန်ကြမ်းများဖြင့် ထုတ်လုပ်သော အပေါ့စားသဲကွန်ကရစ်အုတ်(AAC အုတ်)နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ်(APC အုတ်) ထုတ်လုပ်မည့် စက်ရုံ(၃)ရုံကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်မြတ်မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းအား ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင် စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင် ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံး လုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေး နိုင်ပါရန် တင်ပြ အပ်ပါသည်။

(signature)

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)

(သန့်စင်ကြိုင်၊ အတွင်းရေးမှူး)

မိတ္တူ - ရုံးလက်ခံ

# Mother Industrial Co., Ltd. မှ အပေါ့စားသဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် ထုတ်လုပ်မည့် စက်ရုံ တည်ဆောက်ခွင့် ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိက အချက်များ

၁။ ကုမ္ပဏီအမည် - Mother Industrial Co., Ltd.

၂။ လုပ်ငန်းအဆိုပြုသူအမည် - ဦးအောင်မြတ် (အဘ- ဦးသိန်းမြင့်)

၃။ အဆိုပြုလုပ်ငန်းအမျိုးအစား - အပေါ့စားသဲကွန်ကရစ်အုတ်(AAC အုတ်)နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ်(APC အုတ်) ထုတ်လုပ်ခြင်း လုပ်ငန်း

၄။ လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း - စက်မှုဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်း ဒေသကြီး၊ အင်းစိန်မြို့နယ်၊ အောက်မင်္ဂလာဒုံလမ်း၊ တညင်းကုန်းရှိ အကြီးစား အုတ်စက်ရုံ (၃၄)၊ အလုပ်ရုံခွဲ (၃)အနီးရှိ မြေဧရိယာ (၉.၅)ဧက နှင့် အင်းစိန်မြို့နယ်၊ လှိုင်မြစ်ကမ်းဘေး၊ ဖော့ကန်ဆိပ်ကမ်းမြေရှိ မြေ (၂၃.၂၉) ဧက

၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - <u>ကျပ် ၂၄၁၃၀.၉၉ သန်း</u> (US$ ၁၁.၉၈ သန်း အပါအဝင်)
- ငွေပမာဏ — ကျပ် ၁၇၃၂.၀၉ သန်း
- စက်ပစ္စည်းကိရိယာများ — ကျပ် ၈၃၆၄.၆၇ သန်း (US$ ၉.၈၄ သန်း )
- ပရိဘောဂ — ၉၀.၀၀ သန်း
- အဆောက်အဦမွမ်းမံစရိတ် — ၆၃၀၀.၀၀ သန်း
- ကုန်ကြမ်း — ၅၈၂၀.၉၉ သန်း
- မော်တော်ယာဉ်များ — ၁၈၂၃.၂၅ သန်း (US$ ၂.၁၄ သန်း)

၆။ နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အုတ် (အရေအတွက်) | ပြည်တွင်း ရောင်းဈေး နှုန်း (ကျပ်) |
|---|---|---|---|
| ၁။ | Brick | ၄၁၀၄၀၀၀၀၀ | ၇၂ |

၇။ ဝင်ငွေ - ကျပ် ၂၉.၅၅ သန်း

၈။ ဝန်ထမ်းအင်အား - ၁၂၉၆ ဦး
- ပြည်တွင်း - ၁၂၉၆ ဦး

၉။ အရင်းကြေကာလ - ( ၅ )နှစ် နှင့် (၆)လ

၁၀။ အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) - (၁၆.၅၄) %

၁၁။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်
- ဝင်ငွေခွန် - ကျပ် ၁.၄၃ သန်း

၁၂။ ငွေကြေးအထောက်အထား - ကျပ်ငွေ အထောက်အထား အဖြစ် ကုမ္ပဏီ အမည်ဖြင့် (၂၂-၈-၂၀၁၂)နေ့ရက်စွဲဖြင့် MFTB ဘဏ်တွင် US$ (၄၁၁၄.၈၉) တင်ပြ ထားပါသည်။

၁၃။ ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် - ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်နှင့် အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)တို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။ အသေးစိတ် စိစစ်ပြီးပါက ပြင်ဆင်ရန် လိုအပ်သည်များကို ပြန်လည်ပြင်ဆင်ပေးပါရန်၊

- ကုမ္ပဏီမှ ဝန်ထမ်းများ၏ လစာငွေမှာ (၁၄၄၀၀၀) အထက် ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် နှုန်းထားများအတိုင်း ကုမ္ပဏီမှ ပေးဆောင်သွားမည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက် တင်ပြပေးရန်။

- အဆိုပြုချက်သည် မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်ကြောင်း ဝန်ခံကတိ ဖော်ပြပေးရန်၊

- ဆောင်ရွက်ပုံနည်းစနစ် နှင့် ရောင်းချမည့်နည်းစနစ်အဆင့်ဆင့်ကို ဖော်ပြပေးရန်၊

- နှစ်စဉ်ကုန်ကြမ်း လိုအပ်ချက်ကို နှစ်အလိုက်ဖော်ပြပေးရန်၊

- စုစုပေါင်း ထုတ်လုပ်မှု ဖော်ပြပေးရန်၊ ထုတ်လုပ်မှုကို နှစ်အလိုက် ဖော်ပြရန်၊

- ရင်းနှီးမြှုပ်နှံမှု သက်တမ်း ဖော်ပြပေးရန်၊

- ဌာနနှင့်ကုမ္ပဏီတို့ တည်ငင်းကုန်း အကြီးစားအုတ်စက်ရုံ အလုပ်ရုံခွဲ(၃)ရှိ မြေ(၉.၅)ဧက ငှားရမ်းခြင်းနှင့် ဖော့ကန်ဆိပ်ကမ်းမြေ (၂၃.၂၉)ဧက ငှားရမ်းခြင်းတို့အတွက် လက်မှတ်ရေးထိုးပြီး စာချုပ်များနှင့် ဖော့ကန်ဆိပ်ကမ်းမြေ(၂၃.၂၉)ဧက ငှားရမ်း စာချုပ် အပေါ် ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက် တင်ပြထား ပါသည်။

- အဆိုပြုချက်တွင် လုပ်ငန်း ဆောင်ရွက်ရန် တင်ပြထားသည့် မြေဧက နှင့် စာချုပ်ပါ မြေဧကများ ကွဲလွဲနေကြောင်း စိစစ် ရပါသည်။

- အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေဧကအား ပြန်လည် စိစစ် ပေးပါရန်၊

- အဆိုပြုလုပ်ငန်းအား အင်းစိန်မြို့နယ်၊ တညင်းကုန်းရှိ စက်မှု ဝန်ကြီးဌာန၊ အကြီးစားအုတ်စက်ရုံ၊ အလုပ်ရုံခွဲ(၃)အနီးရှိ မြေ ဧရိယာ(၉.၅)ဧကတွင် ဆောင်ရွက်ရန်အတွက် ကန့်ကွက်ရန် မရှိ ကြောင်း ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့မှ ထောက်ခံစာ တင်ပြ ထားပါသည်။

M-183
1812

ရှီးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်းမြေငှားရမ်းနိုင်ရေး အတွက် ဈေးနှုန်း သတ်မှတ်ချက် ရရှိရေးတင်ပြလာခြင်း ကိစ္စ**

၁။ Mother Industrial Co., Ltd သည် စက်မှုဝန်ကြီးဌာနပိုင်၊ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အောက်မင်္ဂလာဒုံလမ်း၊ တညင်းကုန်ရှိ အကြီးစားအုတ်စက်ရုံ(၃၄)၊ အလုပ်ရုံခွဲ(၃)ရှိ စက်ရုံမြေ(၂၃၇.၆၂၉)ဧက နှင့် အင်းစိန်မြို့နယ်၊ လှိုင်မြစ်ကမ်းဘေး၊ ဖော့ကန်ဆိပ်ကမ်းမြေရှိ မြေ(၂၃.၂၉)ဧက၊ စုစုပေါင်းမြေ ဧရိယာ(၂၆၀.၉၁၉)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ၊ စက်ပစ္စည်း ကိရိယာများ ၊ ရုံးသုံးပရိဘောဂများ၊ အခြားပစ္စည်းများ အပါအဝင်အားငှားရမ်း၍ ပေါ့ပါးခိုင်ခန့်ပြီး နိုင်ငံတကာအဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်(AAC အုတ်) နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ်(APC အုတ်)များ ထုတ်လုပ်သည့်လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကို(၁-၂-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၁/၂၀၁၃)ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုမိန့်အမှတ်၊ မနသ-၈၇၅/၂၀၁၃(၂-၁-၂၀၁၃)ကို ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

၂။ သို့ပါ၍ စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်းမြေ ငှားရမ်းနိုင်ရေးအတွက် ဈေးနှုန်း သတ်မှတ်ချက်ရရှိရေး တင်ပြလာခြင်းကိစ္စ အတွက် သက်ဆိုင်ရာသို့ ပြန်ကြားမည့် **စာချော** နှင့် အတူလမ်းညွှန်မှုခံယူအပ်ပါသည်။

14/2/13

(အေးမင်းစန်း)

ဦးစီးအရာရှိ

**ဒုတိယညွှန်ကြားရေးမှူး**

၃။ [illegible]

[illegible] 14/2

[illegible]

၄။ [illegible]

[illegible]

၅။

Mother industrial (Ns)

[illegible]

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ) -၉၅-၀၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၆၁၊၄၀၆၁၃၉

စာအမှတ်၊ ရက - ၁/မ - ထွေ/၂၀၁၃ (၂၂၃၈-၃)

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ၁၈ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**

**စက်မှုဝန်ကြီးဌာန**

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်းမြေ ငှားရမ်းနိုင်ရေး အတွက် ဈေးနှုန်း သတ်မှတ်ချက် ရရှိရေးတင်ပြလာခြင်း ကိစ္စ**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန ၏ (၅-၂-၂၀၁၂)ရက်စွဲပါစာ အမှတ်၊၄၀/စမ(၂)၂၀၁၂ -၂၀၁၃ (၃၉၀၄)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာန မှ ကုန်ကြမ်းမြေ ငှားရမ်းနိုင်ရေးအတွက် ဈေးနှုန်း သတ်မှတ်ချက် ရရှိရေးအတွက် ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကို လက်ခံရရှိပါသည်။

၂။ အထက်အပိုဒ် (၁)ပါ တင်ပြလာခြင်း ကိစ္စရပ် အပေါ် ကော်မရှင် အနေဖြင့် မြေငှားရမ်းခ သတ်မှတ်ပေးခြင်းမရှိပါကြောင်း နှင့် ကော်မရှင် ၏ ခွင့်ပြုမိန့်ဖြင့် လုပ်ကိုင်နေသည့် လုပ်ငန်းများ ၏ မြေငှားရမ်းခနှုန်းများကို သိရှိနိုင်ပါရန် **ပူးတွဲ** ပေးပို့အပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ရုံးလက်ခံ/မျှောစာတွဲ

| စဉ် | ကုမ္ပဏီအမည်/မနသ အမှတ် ရက်စွဲ | လုပ်ငန်းအမျိုးအစား | တည်နေရာ | မြေငှားရမ်းခ 1sqm/Kyat | |
|---|---|---|---|---|---|
| | | | | အဆောက်အဦပါရှိသော မြေ | မြေလွတ်/ မြေရိုင်း |
| ၁။ | Youth Force Hotel Co., Ltd မနသ-၈၂၀/၂၀၁၁ (၁၅-၁၁-၂၀၁၁) | Business Center & Service Appartment | အမှတ်(၁၆)၊သံတမန်လမ်း၊ ဒဂုံမြို့ နယ်၊ ရန်ကုန်တိုင်း ဒေသကြီး(ယခင် MOFA ရုံး အဟောင်း) | ကျပ် ၁၂၇၅၀ (သို့) US$ ၁၅ (၁ ဒေါ်လာ= ၈၅၀ ကျပ်) | - |
| ၂။ | Myat Myittar Mon Services Co., Ltd မနသ -၈၈၀/၂၀၁၃ ( ၁၆-၁-၂၀၁၃) | BOT စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်း | မြေကွက်အမှတ်၁၊ ၂ (အေ)၊ သီလဝါ ဆိပ်ကမ်းဒေသ | - | ကျပ် (၁၆၀၂.၈၄) |
| ၃။ | Wa Min Mining Co., Ltd မနသ-၈၈၂/၂၀၁၃ (၁၆-၁-၂၀၁၃) | CMP စနစ်ဖြင့် စတီးလ်မီးဖို ချောင်သုံး နှင့် လူသုံးကုန်ပစ္စည်း အမျိုးမျိုး ထုတ်လုပ် ခြင်း လုပ်ငန်း | အမှတ်(၁၁၆)၊သမိုင်းဘူတာရုံလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ စက်မှုဝန်ကြီးဌာန၊ စက္ကူ နှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင် ကြွေရည်သုတ်စက်ရုံရှိ မြေ(၁၅၀'x၁၅၀') နှင့် အဆောက်အဦငှား ရမ်းလုပ်ကိုင်ခြင်း | ကျပ် (၆၀၁.၁၃) | - |

| | | | | | |
|---|---|---|---|---|---|
| ၄။ | Myanmar Annwa Swan :A: Shin Group Co.,. Ltd မနသ- ၅၇၂/၂၀၀၃(၁-၁-၂၀၀၃) | BOT စနစ်ဖြင့် ဆိပ်ခံတံတား နှင့် ကွန်တိန်နာလွင်ပြင် သိုလှောင်တည် ဆောက်ခြင်း | အမှတ်(၇/၂-ခ )၊ အလုံမြို့နယ်၊ကမ်းနား လမ်း၊ရန်ကုန်တိုင်း ဒေသကြီး | ကျပ် (၁၀၀.၀၇) | ကျပ် (၂၁၉.၉) |
| ၅။ | Myanmar Phonenix Mfg: Co., Ltd မနသ- ၇၂၄/၂၀၀၉(၁၄-၁၂-၂၀၀၉) | BOT စနစ်ဖြင့် မြေငှားရမ်း၍ တန်(၁၀၀၀)ဆံ့၊ အအေးခန်းစက်ရုံ တန်(၁၀၀)ကျ ရေခဲစက်ရုံ နှင့် ငါး၊ ပုစွန် တင်ချနိုင် သော ဆိပ်ခံတံတား တည်ဆောက်ကာ ရေခဲ၊ ငါး၊ ပုစွန် ထုတ်လုပ် ခြင်း လုပ်ငန်း၊ | အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ရန်ကုန်တိုင်းဒေသကြီး | - | ကျပ်(၄၅၀ ) |

| | | | | | |
|---|---|---|---|---|---|
| ၄။ | Myanmar Annwa Swan :A: Shin Group Co.,. Ltd မနသ-၅၇၂/၂၀၀၃(၁-၁-၂၀၀၃) | BOT စနစ်ဖြင့် ဆိပ်ခံတံတား နှင့် ကွန်တိန်နာလွှင်ပြင် သို လှောင်တည် ဆောက်ခြင်း | အမှတ်(၇/၂-ခ )၊ အလုံမြို့နယ်၊ကမ်းနား လမ်း၊ရန်ကုန်တိုင်း ဒေသကြီး | ကျပ် (၁၀၀.၀၇) | ကျပ် (၂၁၉.၉) |
| ၅။ | Myanmar Phonenix Mfg: Co., Ltd မနသ-၇၂၄/၂၀၀၉(၁၄-၁၂-၂၀၀၉) | BOT စနစ်ဖြင့် မြေငှားရမ်း၍ တန်(၁၀၀၀)ဆံ့၊ အအေးခန်းစက်ရုံ တန်(၁၀၀)ကျ ရေခဲစက်ရုံ နှင့် ငါး၊ ပုစွန် တင်ချနိုင် သော ဆိပ်ခံတံတား တည်ဆောက်ကာ ရေခဲ၊ ငါး၊ ပုစွန် ထုတ်လုပ် ခြင်း လုပ်ငန်း၊ | အင်းစိန်မြို့နယ် ၊ အနောက်ကြို့ကုန်း၊ ရန်ကုန်တိုင်းဒေသကြီး | - | ကျပ်(၄၅၀ ) |

ဦးအောင်နိုင်ဦး

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

၉.၂.၂၀၁၃

ခင်ဗျား

ကျွန်တော်တို့စက်မှုဝန်ကြီးဌာနကြီးကြပ်မှုအောက်ရှိ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ (တညင်းကုန်း) ပိုင်ကုန်ကြမ်းမြေ ဧရိယာ (၉၀.၀၂၉) ဧကအား Mother Industrial Co., Ltd သို့ ငှားရမ်းနိုင်ရေးအတွက် (၁)စတုရန်းပေ (သို့မဟုတ်) (၁)စတုရန်း မီတာအတွက် မြေငှားရမ်းခနှုန်းထား လက်ရှိအသုံးချနိုင်သည့်မြေ/ ရေကန်မြေဟူ၍ခွဲခြားဖော်ပြပြီး ပြန်ကြားပေးနိုင်ရေးဆောင်ရွက် ပေးပါရန်မေတ္တာရပ်ခံအပ်ပါသည်။

(သွင်မြင့်မောင်)
ဒုတိယညွှန်ကြားရေးမှူးချုပ်
ရုံးအဖွဲ့မှူး
စက်မှုဝန်ကြီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၄၀-စမ(၂)၂၀၁၂-၂၀၁၃(၃၉၀၄)

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်

အကြောင်းအရာ။ **ကုန်ကြမ်းမြေငှားရမ်းနိုင်ရေးအတွက် ဈေးနှုန်းသတ်မှတ်ချက်ရရှိရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ (တည်းကုန်း)ပိုင် မြေဧရိယာ(၂၃၇.၆၂၉)ကေနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖော့ကန် ဆိပ်ကမ်းမြေ၏ တစ်စိတ်တစ်ပိုင်းဖြစ်သော မြေဧရိယာ(၂၃.၂၉၀)ကေ၊ စုစုပေါင်းမြေဧရိယာ (၂၆၀.၉၁၉)ကေအား Mother Industrial Co., Ltd. သို့ ငှားရမ်းရေးကိစ္စကို၂၃.၈.၂၀၁၂ ရက်နေ့ တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၃၂/၂၀၁၂)ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုပြီးဖြစ်ပါသည်။

၂။ ထို့ကြောင့် ပထမအဆင့်အဖြစ် အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တည်းကုန်း)နှင့် ၎င်းမြေ (၆၁.၁၂၆)ကေအား ငှားရမ်းရေးအတွက် အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် Mother Industrial Co., Ltd. တို့သည် ၂၄.၈.၂၀၁၂ ရက်နေ့တွင် နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ကို ချုပ်ဆိုဆောင်ရွက်ခဲ့ကြပါသည်။

၃။ ဒုတိယအဆင့်အဖြစ် အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တည်းကုန်း)ပိုင် ကုန်ကြမ်းမြေဧရိယာ (၁၇၆.၅၀၃)ကေအနက် လန(၃၉)မရရှိသေးသည့် မြေ(၆၂.၃၇၀)ကေနှင့် ရှင်းလင်းမှုမရှိသေးသည့် မြေ(၂၄.၁၀၄)ကေ၊ စုစုပေါင်းမြေ(၈၆.၄၇၄)ကေကို နုတ်ပယ်၍ မြေ(၉၀.၀၂၉)ကေအား ငှားရမ်း နိုင်ရေးဆောင်ရွက်ရာတွင် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

| စဉ် အကွက်အမှတ် | မူလဧရိယာ (ကေ) | ကန်များ၏ဧရိယာ (ကေ) | လက်ရှိအသုံးချနိုင်မည့်ဧရိယာ(ကေ) |
|---|---|---|---|
| (က) အကွက်အမှတ်(D) | ၂၀.၀၀၀ | ၁၀.၁၃၀ | ၉.၈၇၀ |
| (ခ) အကွက်အမှတ်(E) | ၄၅.၀၂၉ | ၂၆.၇၅၀ | ၁၈.၂၇၉ |
| (ဂ) အကွက်အမှတ်(G) | ၂၅.၀၀၀ | ၂၄.၀၀၀ | ၁.၀၀၀ |
| **စုစုပေါင်း** | ၉၀.၀၂၉ | ၆၀.၈၈၀ | ၂၉.၁၄၉ |

၄။ စာချုပ်ချုပ်ဆိုငှားရမ်းမည့် ကုန်ကြမ်းမြေ(၉၀.၀၂၉)ကေတွင် လက်ရှိအသုံးချနိုင်မည့် မြေဧရိယာမှာ (၂၉.၁၄၉)ကေဖြစ်ပြီး၊ ကျန်မြေဧရိယာ(၆၀.၈၈၀)ကေမှာ ကုန်ကြမ်းများဖော်ထုတ် ထားမှုကြောင့် ဖြစ်ပေါ်နေသည့် ရေကန်များဖြစ်ပြီး ပျမ်းမျှအနက်(၈)ပေခန့်စီရှိကြောင်း ဖော်ပြအပ် ပါသည်။

၅။ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တညင်းကုန်း)ပိုင် ကုန်ကြမ်းမြေဧရိယာ(၉၀.၀၂၉)ဧကအား ငှားရမ်းရေးကိစ္စကို ၉.၁.၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဉ်(၁၉/၂၀၁၂-၂၀၁၃)မှ မူအားဖြင့် သဘောတူညီပါကြောင်းနှင့် မြေငှားရမ်းခအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သတ်မှတ်နှုန်းဖြင့် ငှားရမ်းနိုင်ရေး ဆောင်ရွက်သွားရန် ဆုံးဖြတ်ပါသည်။

၆။ ငှားရမ်းလိုသည့် ကုန်ကြမ်းမြေဧရိယာ(၉၀.၀၂၉)ဧက၏ တည်နေရာပြမြေပုံကြမ်းကို **နောက်ဆက်တွဲ(က)**ဖြင့်လည်းကောင်း၊ ကန်များဖြစ်ပေါ်နေမှု မှတ်တမ်းဓါတ်ပုံအား **နောက်ဆက်တွဲ(ခ)**ဖြင့်လည်းကောင်း ပူးတွဲပေးပို့အပ်ပါသည်။

၇။ သို့ပါ၍ စက်မှုဝန်ကြီးဌာန၊ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တညင်းကုန်း)ပိုင် ကုန်ကြမ်းမြေဧရိယာ(၉၀.၀၂၉)ဧကအား Mother Industrial Co., Ltd. သို့ ငှားရမ်းနိုင်ရေးအတွက် (၁)စတုရန်းပေ (သို့မဟုတ်) (၁)စတုရန်းမီတာအတွက် မြေငှားရမ်းခနှုန်းအား လက်ရှိအသုံးချနိုင်သည့် မြေ/ရေကန်မြေဟူ၍ ခွဲခြားဖော်ပြပြီး သတ်မှတ်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

**ညွှန်ကြားရေးမှူးချုပ်**
**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

မိတ္တူကို
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# စက်မှုဝန်ကြီးဌာန
## အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
## အထွေထွေလုပ်ငန်းရေးအလုပ်ရုံ (တည်ဆောက်ဆဲ)တည်နေရာပြမြေပုံ



# ကုန်ကြမ်းမြေကြီးတူးဖေါ်ခဲ့ပြီး၊ ရေကန်သဖွယ်ဖြစ်ပေါ်နေမှုများ



(အကွက်အမှတ်-D)



(အကွက်အမှတ်-D)

ကုန်ကြမ်းမြေကြီးတူးဖော်ခဲ့ပြီး၊ ရေကန်သဖွယ်ဖြစ်ပေါ်နေမှုများ



(အကွက်အမှတ်-E)



(အကွက်အမှတ်-G)

| စဉ် | ကုမ္ပဏီအမည်/မနသ အမှတ် ရက်စွဲ | လုပ်ငန်းအမျိုး အစား | တည်နေရာ | မြေငှားရမ်းခ 1sqm/Kyat | |
|---|---|---|---|---|---|
| | | | | Cover | Uncover |
| ၁။ | Youth Force Hotel Co., Ltd<br>မနသ-၈၂၀/၂၀၁၁<br>(၁၅-၁၁-၂၀၁၁) | Business Center & Service Appartment | အမှတ်(၁၆)၊သံတမန်လမ်း၊ ဒဂုံမြို့ နယ်၊ ရန်ကုန်တိုင်း ဒေသကြီး(ယခင် MOFA ရုံး အဟောင်း) | ကျပ် ၁၂၇၅၀ (သို့) US$ ၁၅ (၁ ဒေါ်လာ= ၈၅၀ ကျပ်) | |
| ၂။ | Myat Myittar Mon Services Co., Ltd<br>မနသ -၈၈၀/၂၀၁၃<br>( ၁၆-၁-၂၀၁၃) | BOT စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်း | မြေကွက်အမှတ်၁၊ ၂ (အေ)၊ သီလဝါ ဆိပ်ကမ်းဒေသ | - | ကျပ် (၁၆၀၂.၈၄) |
| ၃။ | Wa Min Mining Co., Ltd<br>မနသ-၈၈၂/၂၀၁၃<br>(၁၆-၁-၂၀၁၃) | CMP စနစ်ဖြင့် စတီးလ်မီးဖို ချောင်သုံး နှင့် လူသုံးကုန် ပစ္စည်း အမျိုးမျိုး ထုတ်လုပ် ခြင်း လုပ်ငန်း | အမှတ်(၁၁၆)၊သမိုင်း ဘူတာရုံလမ်း၊ မရမ်းကုန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ စက်မှုဝန်ကြီးဌာန၊ စက္ကူ နှင့် အိမ်သုံး ပစ္စည်းလုပ်ငန်းပိုင် ကြွေရည်သုတ်စက်ရုံရှိ မြေ(၁၅၀'x၁၅၀') နှင့် အဆောက်အဦငှား ရမ်းလုပ်ကိုင်ခြင်း | ကျပ် (၆၀၁.၁၃) | - |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၄၀-စမ(၂)၂၀၁၂-၂၀၁၃(၃၉၀၄)

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်

အကြောင်းအရာ။ **ကုန်ကြမ်းမြေငှားရမ်းနိုင်ရေးအတွက် ဈေးနှုန်းသတ်မှတ်ချက်ရရှိရေးကိစ္စ**

၁။ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းရှိ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တညင်းကုန်း)ပိုင် မြေဧရိယာ(၂၃၇.၆၂၉)ကေနှင့် စခန်းထောက်အဖြစ် အသုံးပြုရန် ဖော့ကန်ဆိပ်ကမ်းမြေ၏ တစ်စိတ်တစ်ပိုင်းဖြစ်သော မြေဧရိယာ(၂၃.၂၉၀)ကေ၊ စုစုပေါင်းမြေဧရိယာ(၂၆၀.၉၁၉)ကေအား Mother Industrial Co., Ltd. သို့ ငှားရမ်းရေးကိစ္စကို၂၃.၈.၂၀၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သော ပြည်ထောင်စုအစိုးရအဖွဲ့၏ (၃၂/၂၀၁၂)ကြိမ်မြောက်အစည်းအဝေးမှ သဘောတူခွင့်ပြုပြီးဖြစ်ပါသည်။

၂။ ထို့ကြောင့် ပထမအဆင့်အဖြစ် အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တညင်းကုန်း)နှင့် ၎င်းမြေ(၆၁.၁၂၆)ကေအား ငှားရမ်းရေးအတွက် အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့် Mother Industrial Co., Ltd. တို့သည် ၂၄.၈.၂၀၁၂ ရက်နေ့တွင် နှစ်ဦးနှစ်ဖက် သဘောတူစာချုပ်ကို ချုပ်ဆိုဆောင်ရွက်ခဲ့ကြပါသည်။

၃။ ဒုတိယအဆင့်အဖြစ် အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တညင်းကုန်း)ပိုင် ကုန်ကြမ်းမြေဧရိယာ(၁၇၆.၅၀၃)ကေအနက် လန(၃၉)မရရှိသေးသည့် မြေ(၆၂.၃၇၀)ကေနှင့် ရှင်းလင်းမှုမရှိသေးသည့် မြေ(၂၄.၁၀၄)ကေ၊ စုစုပေါင်းမြေ(၈၆.၄၇၄)ကေကို နုတ်ပယ်၍ မြေ(၉၀.၀၂၉)ကေအား ငှားရမ်းနိုင်ရေးဆောင်ရွက်ရာတွင် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

| စဉ် | အကွက်အမှတ် | မူလဧရိယာ (ကေ) | ကန်များ၏ဧရိယာ (ကေ) | လက်ရှိအသုံးချနိုင်မည့်ဧရိယာ(ကေ) |
|---|---|---|---|---|
| (က) | အကွက်အမှတ်(D) | ၂၀.၀၀၀ | ၁၀.၁၃၀ | ၉.၈၇၀ |
| (ခ) | အကွက်အမှတ်(E) | ၄၅.၀၂၉ | ၂၆.၇၅၀ | ၁၈.၂၇၉ |
| (ဂ) | အကွက်အမှတ်(G) | ၂၅.၀၀၀ | ၂၄.၀၀၀ | ၁.၀၀၀ |
| | စုစုပေါင်း | ၉၀.၀၂၉ | ၆၀.၈၈၀ | ၂၉.၁၄၉ |

၄။ စာချုပ်ချုပ်ဆိုငှားရမ်းမည့် ကုန်ကြမ်းမြေ(၉၀.၀၂၉)ကေတွင် လက်ရှိအသုံးချနိုင်မည့် မြေဧရိယာမှာ (၂၉.၁၄၉)ကေဖြစ်ပြီး၊ ကျန်မြေဧရိယာ(၆၀.၈၈၀)ကေမှာ ကုန်ကြမ်းများဖော်ထုတ်ထားမှုကြောင့် ဖြစ်ပေါ်နေသည့် ရေကန်များဖြစ်ပြီး ပျမ်းမျှအနက်(၈)ပေခန့်စီရှိကြောင်း ဖော်ပြအပ်ပါသည်။

၅။ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တညင်းကုန်း)ပိုင် ကုန်ကြမ်းမြေဧရိယာ(၉၀.၀၂၉)ဧကအား ငှားရမ်းရေးကိစ္စကို ၉.၁.၂၀၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဉ်(၁၉/၂၀၁၂-၂၀၁၃)မှ မူအားဖြင့် သဘောတူညီပါကြောင်းနှင့် မြေငှားရမ်းခအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သတ်မှတ်နှုန်းဖြင့် ငှားရမ်းနိုင်ရေး ဆောင်ရွက်သွားရန် ဆုံးဖြတ်ပါသည်။

၆။ ငှားရမ်းလိုသည့် ကုန်ကြမ်းမြေဧရိယာ(၉၀.၀၂၉)ဧက၏ တည်နေရာပြမြေပုံကြမ်းကို **နောက်ဆက်တွဲ(က)**ဖြင့်လည်းကောင်း၊ ကန်များဖြစ်ပေါ်နေမှု မှတ်တမ်းဓါတ်ပုံအား **နောက်ဆက်တွဲ(ခ)**ဖြင့်လည်းကောင်း ပူးတွဲပေးပို့အပ်ပါသည်။

၇။ သို့ပါ၍ စက်မှုဝန်ကြီးဌာန၊ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ(တညင်းကုန်း)ပိုင် ကုန်ကြမ်းမြေဧရိယာ(၉၀.၀၂၉)ဧကအား Mother Industrial Co., Ltd. သို့ ငှားရမ်းနိုင်ရေးအတွက် (၁)စတုရန်းပေ (သို့မဟုတ်) (၁)စတုရန်းမီတာအတွက် မြေငှားရမ်းခနှုန်းအား လက်ရှိအသုံးချနိုင်သည့် မြေ/ရေကန်မြေဟူ၍ ခွဲခြားဖော်ပြပြီး သတ်မှတ်ပေးနိုင်ပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၅ / ၂ /

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

မိတ္တူကို

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

# စက်မှုဝန်ကြီးဌာန
# အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
# အုတ်ထုတ်လုပ်ရေးအလုပ်ရုံ (တညင်းကုန်း)တည်နေရာပြပုံ



## ကုန်ကြမ်းမြေကြီးတူးဖော်ခဲ့ပြီး၊ ရေကန်သဖွယ်ဖြစ်ပေါ်နေမှုများ




(အကွက်အမှတ်-D)



(အကွက်အမှတ်-D)

# ကုန်ကြမ်းမြေကြီးတူးဖော်ခဲ့ပြီး၊ ရေကန်သဖွယ်ဖြစ်ပေါ်နေမှုများ



(အကွက်အမှတ်-E)



(အကွက်အမှတ်-G)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၂၁ ရက်

အကြောင်းအရာ။ **Mother Industrial Co., Ltd. မှ မြေငှားရမ်းခြင်း သဘောတူစာချုပ်များ ပေးပို့ခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီဖြစ်သော Mother Industrial Co., Ltd. သည် စက်မှုဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အောက်မင်္ဂလာဒုံလမ်း၊ တည်ငင်းကုန်းရှိ အကြီးစား အုတ်စက်ရုံ(၃၄)၊ အလုပ်ရုံခွဲ(၃)ရှိ စက်ရုံမြေ(၂၃၇.၆၂၉)ဧကနှင့် အင်းစိန်မြို့နယ်၊ လှိုင်မြစ် ကမ်းဘေး၊ ဖော့ကန်ဆိပ်ကမ်းမြေရှိ မြေ(၂၃.၂၉)ဧက၊ စုစုပေါင်းမြေ ဧရိယာ(၂၆၀.၉၁၉)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ၊ စက်ပစ္စည်း ကိရိယာများ၊ ရုံးသုံးပရိဘောဂများ၊ အခြား ပစ္စည်းများ အပါအဝင်အား ငှားရမ်း၍ ပေါ့ပါးခိုင်ခန့်ပြီး နိုင်ငံတကာအဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်(AAC အုတ်) နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် (APC အုတ်)များ ထုတ်လုပ်သည့်လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကို (၁-၂-၂၀၁၃) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁/၂၀၁၃) ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုမိန့်အမှတ်၊ မနသ- ၈၇၅ /၂၀၁၃ (၂ - ၁ - ၂၀၁၃) ကို ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်။

၂။ ယခုအခါ ကုမ္ပဏီမှ ပေးပို့လာသည့် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစား စက်မှုလုပ်ငန်း နှင့် Mother Industrial Co., Ltd တို့ မြေငှားရမ်းခြင်း သဘောတူစာချုပ်များ ဖြစ်သည့် အမှတ်(၃၄)အကြီးစားစက်ရုံ (သာယာဝတီ) လက်အောက်ခံ အုတ်ထုတ်လုပ်ရေး အလုပ်ရုံ ငှားရမ်းသည့် သဘောတူစာချုပ်မိတ္တူ (၅)စုံ နှင့် ဖော့ကန်ဆိပ်ကမ်းမြေ(၂၃.၂၉)ဧက ငှားရမ်း သည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်မိတ္တူ(၅)စုံတို့ကို လက်ခံ ရရှိပါသည်။

၃။ သို့ဖြစ်ပါ၍ အမှတ်(၃၄)အကြီးစားစက်ရုံ (သာယာဝတီ) လက်အောက်ခံ အုတ် ထုတ်လုပ်ရေးအလုပ်ရုံငှားရမ်းသည့် သဘောတူစာချုပ်မိတ္တူ (၃)စုံ နှင့် ဖော့ကန်ဆိပ်ကမ်းမြေ (၂၃.၂၉)ဧက ငှားရမ်းသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်မိတ္တူ(၃)စုံတို့ကို သက်ဆိုင်ရာ ရင်းနှီး မြှုပ်နှံမှု လုပ်ငန်းများ ကြီးကြပ်ရေးဌာနခွဲ သို့ လွှဲပြောင်းခွင့်ပြုပါရန် တင်ပြအပ်ပါသည်။

(signature)

(ဇာနည်ထွေး)
ဒုတိယဦးစီးမှူး

**ဦးစီးအရာရှိ**

၄။ သက်ဆိုင်ရာသို့ လွှဲပြောင်းပေးနိုင်ပါရန် တင်ပြအပ်ပါသည်။
(initials) ၂၁/၁/၁၃
(ဇော်ဦးမျိုး)

Permit Ns

**MOTHER INDUSTRIAL CO., LTD.**
**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီ (၁၈)ရက်။

အကြောင်းအရာ။ ။ **မြေငှားရမ်းခြင်း သဘောတူစာချုပ်များ ပေးပို့ခြင်း။**
ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၁-၂၀၁၃)ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၃/၂၀၁၃ (မနသ)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ Mother Industrial Co., Ltd. သည် စက်မှုဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အောက်မင်္ဂလာဒုံလမ်း၊ အကြီးစားစက်ရုံ (၃၄)လက်အောက်ခံအုတ်စက်ရုံ (တညင်းကုန်း)ရှိ စက်ရုံမြေ (၂၃၇.၆၂၉)ဧကနှင့် အင်းစိန်မြို့နယ်၊ လှိုင်မြစ်ကမ်းဘေး၊ ဖော့ကန်ဆိပ်ကမ်းမြေရှိ မြေ (၂၃.၂၉) ဧက စုစုပေါင်းမြေဧရိယာ (၂၆၀.၉၁၉) ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပရိဘောဂများ၊ အခြားပစ္စည်းများအပါအဝင်အား ငှားရမ်း၍ အုတ်စက်ရုံခွဲ (၃) မှ (၉.၅) ဧက အကျယ်မြေနေရာနှင့် ဖော့ကန်ဆိပ်ကမ်းမြေ (၂၃.၂၉)ဧကတို့တွင် ပေါ့ပါးခိုင်ခန့်ပြီး နိုင်ငံတကာအဆင့်မီ အပေါ့စားသဲကွန်ကရစ်အုတ် (AAC အုတ်)နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် (APC အုတ်) များထုတ်လုပ်သည့်လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၂-၁-၂၀၁၃)ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် မနသ-၈၇၅/၂၀၁၃ ဖြင့် ခွင့်ပြုချက်ရရှိပြီးဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းချက်ပါအမိန့်ကြော်ငြာစာအမှတ် ၃/၂၀၁၃(မနသ) အပိုဒ် (၅) တွင် ဖော်ပြထားချက်နှင့်အညီ စက်မှုဝန်ကြီးဌာန၊ အမှတ် (၃) အကြီးစားစက်မှု လုပ်ငန်းနှင့် ကျွန်တော်များ Mother Industrial Co., Ltd. တို့ မြေငှားရမ်းခြင်းသဘောတူစာချုပ်များဖြစ်သည့် အမှတ် (၃၄) အကြီးစားစက်ရုံ (သာယာဝတီ) လက်အောက်ခံ အုတ်ထုတ်လုပ်ရေးအလုပ်ရုံငှားရမ်းသည့် သဘောတူစာချုပ်မိတ္တူ (၅) စုံနှင့် ဖော့ကန်ဆိပ်ကမ်းမြေ (၂၃.၂၉) ဧက ငှားရမ်းသည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်မိတ္တူ (၅) စုံတို့ကို လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်မြတ်)
အုပ်ချုပ်မှုဒါရိုက်တာ

မိတ္တူကို

- ရုံးလက်ခံ/ မျှော

**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

ပုံစံ (မနသ - ၂)
စာအမှတ် ၁၄၉
ရက်စွဲ ၂-၁-၂၀၁၃

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၇၅ / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီ လ ၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးအောင်မြတ်

(ခ) အဘ အမည် ဦးသိန်းမြင့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဥကတ(နိုင်) ၀၂၁၀၃၉

(ဃ) နေရပ်လိပ်စာ အမှတ် (၃၇)၊ ဝေဇယန္တာလမ်း၊ အမှတ်(၉)ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Mother Industrial Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား အပေါ့စားသံကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သံကွန်ကရစ်အုတ် ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) စက်မှုဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အောက်မင်္ဂလာဒုံလမ်း၊ အကြီးစားစက်ရုံ(၃၄)၊ ယက်အောက်ခံအုတ်စက်ရုံ(တည်းကုန်း)၊ အလုပ်ရုံခွဲ(၃)။ နှင့် အင်းစိန်မြို့နယ် ကျိုင်မြစ်တာမိန်းဘား ဖေ၁ကန်ဆီပိုက်ကမ်း မြေ၊

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၂၀၃၃၉.၅၃၄(သန်း)(အမေရိကန်ဒေါ်လာ (၁၁.၉၈)သန်း အပါအဝင် စုစုပေါင်း ကျပ်နှစ်သောင်းသုံးရာသုံးဆယ့်ကိုးသန်းငါးသိန်းသုံးသောင်းလေးထောင်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ကန့်သတ်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃ /၂၀၁၃ (မနသ)

နေပြည်တော်၊ ၁၃၇၄ ခုနှစ်၊ နတ်တော်လပြည့်ကျော် ၅ ရက်

(၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော Mother Industrial Co., Ltd. သည် စက်မှုဝန်ကြီးဌာနပိုင် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အောက်မင်္ဂလာဒုံလမ်း၊ အကြီးစားစက်ရုံ(၃၄)၊ လက်အောက်ခံ အုတ်စက်ရုံ (တည်င်းကုန်း)ရှိ စက်ရုံမြေ(၂၃၇.၆၂၉)ဧကနှင့် အင်းစိန်မြို့နယ်၊ လှိုင်မြစ်ကမ်းဘေး၊ ဖော့ကန်ဆိပ်ကမ်းမြေရှိ မြေ(၂၃.၂၉)ဧက၊ စုစုပေါင်းမြေ ဧရိယာ(၂၆၀.၉၁၉) ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံး ပရိဘောဂများ၊ အခြား ပစ္စည်းများအပါအဝင်အား ငှားရမ်း၍ အုတ်စက်ရုံခွဲ(၃)မှ (၉.၅)ဧကအကျယ်မြေနေရာနှင့် ဖော့ကန် ဆိပ်ကမ်းမြေ(၂၃.၂၉)ဧကတို့တွင် ပေါ့ပါးခိုင်ခန့်ပြီး နိုင်ငံတကာ အဆင့်မီ အပေါ့စား သဲကွန်ကရစ် အုတ်(AAC အုတ်) နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ် (APC အုတ်)များ ထုတ်လုပ်သည့် လုပ်ငန်း ကို မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက် အား(၂-၁-၂၀၁၃)နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Mother Industrial Co., Ltd. အား ပေါ့ပါး ခိုင်ခန့် ပြီး နိုင်ငံတကာအဆင့်မီ အပေါ့စား သဲကွန်ကရစ်အုတ်(AAC အုတ်) နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ် အုတ် (APC အုတ်)များ ထုတ်လုပ်သည့် လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၈၇၅/ ၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Mother Industrial Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန် လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး

ကန့်သတ်

mother ind;order Permited

ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး သည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး သည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၄။ Mother Industrial Co., Ltd. သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများ ကို သီးခြားပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ စက်မှုဝန်ကြီးဌာန နှင့် အငှားချထားခြင်းခံရသူ ဦးအောင်မြတ် (Mother Industrial Co., Ltd.) တို့ ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုး ပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်**ပေးပို့ တင်ပြရမည်။

၆။ မြေငှားရမ်းကာလမှာ ကနဦး (၁၅)နှစ် ဖြစ်ပြီး စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် ဆက်လက် ငှားရန်းလိုပါက (၅)နှစ် (၃)ကြိမ် ဆက်လက် ငှားရမ်းခွင့်ရှိသည်။

၇။ မြေငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ်(၈၂.၉၄၄)သန်း ဖြစ်ပြီး ငှားရမ်းခ ကျသင့်ငွေအား စတင် ငှားရမ်းသည့် အချိန်မှ စ၍ နှစ်စဉ် တစ်လအတွင်း တစ်နှစ်စာ တစ်လုံး တစ်ခဲတည်းပေးချေရမည်။

၈။ မြေငှားရမ်းခနှုန်းကို နှစ်စဉ် ညှိနှိုင်း၍ တိုးတောင်းပိုင်ခွင့် ရှိသည်။ ထိုသို့ တိုးတောင်းရာ၌ ယမန်နှစ် မြေငှားရမ်းခ တစ်နှစ် နှုန်းထား၏ (၁၀%)စီ ထက် မပိုသော နှုန်းဖြစ်စေရမည်။ ငှားရမ်းကာလ(၁၅)နှစ် ကုန်ဆုံးပြီးနောက် ဆက်လက် ငှားရမ်းခဲ့ပါက (၅)နှစ် (၃)ကြိမ် ဆက်လက် ငှားရမ်းခွင့် ရှိပြီး မြေငှားရမ်းခကို နှစ်စဉ်ပေးချေရမည်။

၉။ Mother Industrial Co., Ltd. သည် မြေအသုံးချမှု Land use premium အဖြစ် ကျပ် (၂၄၈၈.၃၂)သန်း၏ (၅၀%)ဖြစ်သော ကျပ်(၁၂၄၄.၁၆၀)သန်းအား စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ (၁)လအတွင်း ပေးသွင်းရမည်ဖြစ်ပြီး ကျန်ငွေ (၅၀%)အား (၁)နှစ်လျှင် (၈၂.၉၄၄) သန်းကို နှစ်စဉ်ကြေးအဖြစ် တစ်နှစ် တစ်ကြိမ် ပေးသွင်းရမည်။

၁၀။ မြေငှားသဘောတူစာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် ကုမ္ပဏီမှ ဆောက်လုပ်ထားသော အဆောက်အဦမှန်သမျှ ကောင်းမွန်စွာ ပြုပြင်ထိန်းသိမ်းထားသော အနေအထားအတိုင်း အသားတင် တန်ဖိုးဖြင့် ဌာနပိုင် ပစ္စည်းအဖြစ် လွှဲပြောင်း ပေးရမည်။

၁၁။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၂။ Mother Industrial Co., Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေး ထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၃။ Mother Industrial Co., Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ် ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၄။ Mother Industrial Co., Ltd. သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း ဒေသကြီးများ၏ စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၅။ Mother Industrial Co., Ltd. သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံ ရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထား သော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၆။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်း နံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၇။ Mother Industrial Co., Ltd.သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၈။ အဆိုပြု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့်ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၉။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က)/ မ-၁၂၇၂ / ၂၀၁၃(၁၄၉ )

ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီ ၂ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှု ဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့်အခွန် ဝန်ကြီးဌာန

အမျိုးသား စီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက်နည်းပညာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန

စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်တိုင်းဒေသကြီး

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ စက်မှု ကုန်ထုတ်လုပ်သူများအသင်း၊ ရန်ကုန်မြို့

အုပ်ချုပ်မှုဒါရိုက်တာ၊ Mother Industrial Co., Ltd.



mother ind;order Permited

# MOTHER INDUSTRIAL CO.,LTD.

မှ

# အပေါ့စား သဲ ကွန်ကရစ် အုတ်နှင့်

# ဖိအားမြင့်ခံ သဲကွန်ကရစ် အုတ် ထုတ်လုပ်ရန်အတွက်

# အဆိုပြုတင်ပြချက်

ရက်စွဲ။ ၂၀၁၁ ခုနှစ်၊ အောက်တိုဘာလ (၂၃)ရက်

2

# MOTHER INDUSTRIAL CO., LTD.

Office : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ။ ။၂၀၁၂ခုနှစ်၊ ၁၀ လ၊(၁၈) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များအကြိုစိစစ် ပေးနိုင်ရန် ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာကိစ္စနှင့်ပက်သတ်၍ ကျွန်တော်တို့ MOTHER INDUSTRIAL CO.,LTD. အနေဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် နိုင်ငံတကာ အဆင့်မီ အပေါ့စားသဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံ သဲကွန်ကရစ်အုတ်ထုတ်လုပ်နိုင်ရန် အတွက် စက်ရုံ(၁)ရုံလျှင် တစ်ရက် အုတ်အလုံးရေ (၃၅၀၀၀၀) ကျ စက်ရုံ(၃)ရုံတည်ဆောက်ပြီး ပြည်တွင်းတွင် အုတ်များထုတ်လုပ်ရောင်းချသည့်လုပ်ငန်းလုပ်ကိုင်ရန် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာ နိုင်ငံ သား များရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ လျှောက်ထား သည့် ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့ ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလိုစီစစ်ပေးနိုင်ပါရန်ပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဦးအောင်မြတ်
(အုပ်ချုပ်မှု ဒါရိုက်တာ)
MOTHER INDUSTRIAL CO.,LTD

Tel : 951-2300919, 2300929, 218462 Fax : 951-2301053
E-mail : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၄၀-စမ(၂)၂၀၁၂-၂၀၁၃ (၁၇၇၁)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ် ဩဂုတ်လ ၂၈ ရက်

အကြောင်းအရာ။ အုတ်ထုတ်လုပ်ရေးအလုပ်ရုံအား နှစ်ရှည်ငှားရမ်းမည့် စာချုပ်တွင် ကုမ္ပဏီအမည် ပြင်ဆင်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ

ရည် ညွှန်း ချက်။ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၏ (၂၃.၈.၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၁၅၀၉/၁၀၇၅/စီ-၄(၃၂၇)။

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၃၄)အကြီးစားစက်ရုံ(သာယာဝတီ)ကြီးကြပ်မှုအောက်ရှိ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ (စက်ရုံမြေ ၂၃၇.၆၂၉)ကေနှင့် ဖော့ကန်ဆိပ်ကမ်းမြေ (၂၃.၂၉)ကေတို့ကို Mother Trading Co., Ltd သို့ နှစ်ရှည်ငှားရမ်းနိုင်ရေးအတွက် နှစ်ဦးနှစ်ဖက်ချုပ်ဆိုမည့် အငှားစာချုပ်တွင် Mother Trading Co., Ltd **အစား** Mother Industrial Co., Ltd **အမည်ဖြင့်** ပြောင်းလဲချုပ်ဆိုခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာခြင်းကို မူအားဖြင့်သဘောတူကြောင်းအကြောင်းကြားအပ်ပါသည်။

**ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)**
**(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)**

**ဦးဆောင်ညွှန်ကြားရေးမှူး**
**အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း**

စက်မှုဝန်ကြီးဌာန
အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း
**No.(3) Heavy Industries Enterprise, Ministry of Industry.**

စာအမှတ်၊ ၁၅၀၉ / ၁၀၇၅ / စီ - ၄ (၃၀၇)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ် ဩဂုတ်လ ၁၆ ရက်

ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီသို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ အမှတ် (၃၄)အကြီးစားစက်ရုံ (သာယာဝတီ) ကြီးကြပ်မှုအောက်ရှိ အုတ်ထုတ်လုပ်ရေးစက်ရုံနှင့် ဖော့ကန်ဆိပ်ကမ်းမြေအား ငှားရမ်းနိုင်ရေး စာချုပ်ချုပ်ဆိုဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည်ညွှန်းချက် ။ စက်မှုဝန်ကြီးဌာန၏ (၁၂.၇.၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ၄၇ - စမ (၂) ၂၀၁၂-၂၀၁၃ (၉၉၃)

၁။ အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်းကြီးကြပ်မှုအောက်ရှိ အမှတ် (၃၄)အကြီးစားစက်ရုံ (သာယာဝတီ)၏ စက်ရုံခွဲအုတ်ထုတ်လုပ်ရေးစက်ရုံ (တညင်းကုန်း)နှင့် စခန်းထောက်အဖြစ် အသုံးပြုနိုင်ရန် ဖော့ကန်ဆိပ်ကမ်းမြေမှ တစ်စိတ်တစ်ပိုင်းမြေဧရိယာဖြစ်သည့် (၂၃.၂၉)ဧကကို တွဲဖက်၍ တစ်ပါတည်း Lease ပြုလုပ်ရန်ခွင့်ပြုကြောင်း ရည်ညွှန်းစာဖြင့် ညွှန်ကြားခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ အုတ်ထုတ်လုပ်ရေးစက်ရုံ (တညင်းကုန်း)နှင့် ဖော့ကန်ဆိပ်ကမ်းမြေ (၂၃.၂၉)ဧကအား Mother Trading Co., Ltd. သို့ ငှားရမ်းနိုင်ရေးအတွက် တွေ့ဆုံဆွေးနွေးညှိနှိုင်းမှုများ ဆောင်ရွက်ပြီးနောက် စာချုပ် (မူကြမ်း)ကိုပြုစုခဲ့ပါသည်။ အဆိုပါ စာချုပ် (မူကြမ်း)အား စက်မှုဝန်ကြီးဌာန၊ စက်မှုစီမံကိန်းဦးစီးဌာနနှင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးတို့မှ ပြင်ဆင်ဖြည့်စွက်အတည်ပြုပေးပြီးဖြစ်ပါသည်။

၃။ စာချုပ်ပါအချက်အလက်အကျဉ်းချုပ်အား အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

(က) အုတ်ထုတ်လုပ်ရေးစက်ရုံ(တညင်းကုန်း)နှင့် ဖော့ကန်ဆိပ်ကမ်းမြေ(၂၃.၂၉)ဧကကို Mother Trading Co., Ltd. (အငှားချထားခြင်းခံရသူ) သို့ ကနဦး (၁၅)နှစ် နှင့် သက်တမ်းတိုး တစ်ကြိမ်လျှင် (၅)နှစ်၊ (၃)ကြိမ် စုစုပေါင်း (၃၀)နှစ်

လိပ်စာ - အဆောက်အ[illegible]ပြုပါမည်။
ဇေယျာဌာနီလမ်း၊ နေပြည်တော်။
တယ်လီဖုန်း - ၀၆၇-၄၀၈၀၇၄၊ ၄၀၈၂၉၆၊ ၄၀၈၂၀၈
၀၆၇-၄၀၈၂၀၇၊ ၄၀၈၃၇၂၊ ၄၀၈၁၈၉
၀၆၇-၄၀၈၃၆၁၊ ၄၀၈၁၉၀
ဖက်(စ်) - ၀၆၇-၄၀၈၀၈၈

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါရှိသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေအတွက် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးအောင်မြတ်<br>အမှတ် (၃၇) ၊ ဝေဇယန္တာလမ်း၊<br>အမှတ်(၉)ရပ်ကွက်၊ တောင်ဥက္ကလာပ<br>မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အက်စ်အိုကေအေ<br>၀၉၉၅၂၆ | ၁၀ | |
| ၂။ | ဒေါ်မြင့်မြင့်အေး<br>အမှတ် (၃၇) ၊ ဝေဇယန္တာလမ်း၊<br>အမှတ်(၉)ရပ်ကွက်၊ တောင်ဥက္ကလာပ<br>မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>ပိဒိဂျီ-၀၇၂၅၆၁ | ၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀ ခုနှစ်၊ လ ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U KYI THEIN
(Reg. No- 3000)
LL.B, DBL (ADVOCATE)
No. 97 (A) Thada Thane 2nd Street
Thingangyun T/S, Yangon.
Ph-560551

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# "အာမေ" စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်

၏

သင်းဖွဲ့စည်းမျဉ်းများ

✣✣✣✣✣✣✣

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ ' က ' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

( ခ ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများအပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ, တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် ၅၀၀,၀၀၀,၀၀၀/-(ကျပ် သန်းငါးရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀/-(ကျပ် တစ်သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှယ်ယာရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်ချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည်-

(၁) ဦးအောင်မြတ်

(၂) ဒေါ်မြင့်မြင့်အေး တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး(၁၀)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သော ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်း တို့ကိုဆောင်ရွက်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာ နှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေးခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန်အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့်ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသောမည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သောစည်းကမ်းသတ်မှတ်ချက်များဖြင့်ငွေကြေးများကိုချေးငှားရန် သို့မဟုတ်အဆိုပါချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒိဘင်ချာများ၊ ဒိဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကိုအမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကို ဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သသော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေး ခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှန်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက်ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဘဏ္ဍာပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ တာသို့ထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

---

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာ စုံလင်စွာပါရှိသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေအတွက် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးအောင်မြတ်<br>အမှတ် (၃၇) ၊ ဝေဇယန္တာလမ်း၊<br>အမှတ်(၉)ရပ်ကွက်၊ တောင်ဥက္ကလာပ<br>မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အက်စ်အိုကေအေ<br>၀၉၉၅၂၆ | ၁၀ | |
| ၂။ | ဒေါ်မြင့်မြင့်အေး<br>အမှတ် (၃၇) ၊ ဝေဇယန္တာလမ်း၊<br>အမှတ်(၉)ရပ်ကွက်၊ တောင်ဥက္ကလာပ<br>မြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>ပိဒိဂျီ-၀၇၂၅၆၁ | ၁၀ | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၀ ခုနှစ်၊ လ ၊ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U KYI THEIN
(Reg. No. 3000)
LL. B, DBL (ADVOCATE)
No. 97 (A) Thudo Thane 2nd Street
Thingangyun T/S, Yangon.
Ph-[illegible]

THE MYNAMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# "MOTHER" INDUSTRIAL COMPANY LIMITED

❖❖❖❖❖❖❖

I. The name of the Company is "MOTHER" INDUSTRIAL COMPANY LIMITED.

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 500,000,000 /- ( Kyats Five Hundred Million Only ) divided into ( 50,000 ) shares of Ks. 10,000 /- ( Kyats Ten Thousand Only) each, with power in General Meeting either to increase, reduce or alther such capital from time to time in accordance with the regulations of the Company and the legislative provisions for the time in force in this behalf.

# မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ်



[illegible]

## MYANMA FOREIGN TRADE BANK

[illegible]

| စဉ် SR. | ရက်စွဲ DATE | အကြောင်းအရာ PARTICULARS | သွင်းငွေ DEPOSIT | ထုတ်ငွေ WITHDRAWAL | လက်ကျန်ငွေ BALANCE US $ | လက်မှတ် SIGNATURE |
|---|---|---|---|---|---|---|
| | 10.8.12 | FEC | —100— | | —100— | [stamp, signature] |
| US$ FEC — One hundred only | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |
| | | | | | | |

MOTHER INDUSTRIAL CO., LTD.
**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ (၂၉)ရက်။

အကြောင်းအရာ ။ ။<u>မြန်မာကျပ်ငွေဘဏ်စာရင်းဖွင့်လှစ်ထားခြင်း မရှိသေးကြောင်းအစီရင်ခံခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Mother Industrial Co., Ltd. သည် မြန်မာကျပ်ငွေဘဏ်စာရင်းဖွင့်လှစ်ထားခြင်း မရှိသေးပါ။ လိုအပ်သောငွေကြေးသုံးစွဲမှုကို ပိုင်ရှင်တစ်ဦးတည်းဖြစ်သော Mother Trading Co., Ltd. ၏ ဘဏ်စာရင်းမှကျခံသုံးစွဲသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မြတ်
(အုပ်ချုပ်မှုဒါရိုက်တာ)
MOTHER INDUSTRIAL CO., LTD.

**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

# MOTHER INDUSTRIAL CO., LTD.

**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.


MOTHER INDUSTRIAL CO., LTD.
No..................
Date..................
YANGON

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

နေ့စွဲ။ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ(၂၉)ရက်။

အကြောင်းအရာ။ **မြန်မာကျပ်ငွေစာရင်းရှင်းလင်းတင်ပြခြင်း။**

Mother Industrial Co., Ltd သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသော ကျပ်ငွေစာရင်းအမှတ် - ၀၀၂၀၁၀၁၁၀၀၀၀၀၈၅၂ မှာ United Amara Bank ၏ ချေးငွေစာရင်း ဖြစ်ပြီး ကျွန်တော်များ ကုမ္ပဏီ၏ ပိုင်ဆိုင်မှုအချို့ကို ဘဏ်တွင်အာမခံထား၍ အာမခံပစ္စည်းတန်ဖိုးများ၏ ၅၀% ခန့်သာ ချေးယူထားခြင်းဖြစ်ပါသည်။ စက်ရုံတည်ဆောက်မှုအတွက် လိုအပ်သည့် ငွေကြေးများအား အထက်ပါငွေစာရင်းမှ အသုံးပြု၍ လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မြတ်

(အုပ်ချုပ်မှု ဒါရိုက်တာ)

**MOTHER INDUSTRIAL CO.,LTD**


**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053

**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

# UNITED AMARA BANK

No(126),Latha St,Latha Township ,Yangon.

Ph : 01-373718~33
Fax : 373732



Account No : 0020101100000852
1 > Name : AUNG MYAT (U)
Address : NO. (37),, WAIZANYANTAR RD., (9) QUARTER, SOUTH OKA., SOUTHOKKALARPA, YANGON(EAST), YANGON, MYANMAR

| SNo | Date | Cheque No | T/T | T/C | Debit Amount | Credit Amount | Balance |
|---|---|---|---|---|---|---|---|
| | 01/09/2012 | | Balance B/F | | | | -2,817,466,125.51 |
| 1 | 03/09/2012 | 000009662 | TR | DP | 0.00 | 292,000,000.00 | -2,525,466,125.51 |
| 2 | 03/09/2012 | | CH | DP | 0.00 | 1,684,900.00 | -2,523,781,225.51 |
| 3 | 03/09/2012 | | CL | DP | 0.00 | 52,840,000.00 | -2,470,941,225.51 |
| 4 | 04/09/2012 | 000120291 | CH | WD | 10,000,000.00 | 0.00 | -2,480,941,225.51 |
| 5 | 04/09/2012 | 000120292 | CH | WD | 35,000,000.00 | 0.00 | -2,515,941,225.51 |
| 6 | 04/09/2012 | 000120293 | TR | WD | 30,000,000.00 | 0.00 | -2,545,941,225.51 |
| 7 | 04/09/2012 | | CL | DP | 0.00 | 42,666,000.00 | -2,503,275,225.51 |
| 8 | 05/09/2012 | 000120294 | CH | WD | 17,800,000.00 | 0.00 | -2,521,075,225.51 |
| 9 | 06/09/2012 | 000120295 | TR | WD | 20,000,000.00 | 0.00 | -2,541,075,225.51 |
| 10 | 10/09/2012 | | CL | DP | 0.00 | 1,000,000.00 | -2,540,075,225.51 |
| 11 | 11/09/2012 | 000120299 | CH | WD | 145,000,000.00 | 0.00 | -2,685,075,225.51 |
| 12 | 11/09/2012 | 000120300 | CH | WD | 60,000,000.00 | 0.00 | -2,745,075,225.51 |
| 13 | 12/09/2012 | 000120296 | TR | WD | 14,880.00 | 0.00 | -2,745,090,105.51 |
| 14 | 13/09/2012 | | CH | DP | 0.00 | 102,500,000.00 | -2,642,590,105.51 |
| 15 | 13/09/2012 | | CH | DP | 0.00 | 235,200,000.00 | -2,407,390,105.51 |
| 16 | 13/09/2012 | | CH | DP | 0.00 | 162,300,000.00 | -2,245,090,105.51 |
| 17 | 13/09/2012 | | TR | DP | 0.00 | 43,560,000.00 | -2,201,530,105.51 |
| 18 | 14/09/2012 | 000120827 | TR | WD | 20,000,000.00 | 0.00 | -2,221,530,105.51 |
| 19 | 14/09/2012 | 000120826 | TR | WD | 250,000,000.00 | 0.00 | -2,471,530,105.51 |
| 20 | 17/09/2012 | 000120828 | CH | WD | 59,750,000.00 | 0.00 | -2,531,280,105.51 |
| 21 | 18/09/2012 | 000120298 | TR | WD | 2,950.29 | 0.00 | -2,531,283,055.80 |
| 22 | 18/09/2012 | 000120297 | TR | WD | 37.38 | 0.00 | -2,531,283,093.18 |
| 23 | 18/09/2012 | | CL | DP | 0.00 | 15,000,000.00 | -2,516,283,093.18 |
| 24 | 18/09/2012 | | CL | DP | 0.00 | 5,000,000.00 | -2,511,283,093.18 |
| 25 | 18/09/2012 | | CL | DP | 0.00 | 15,000,000.00 | -2,496,283,093.18 |
| 26 | 18/09/2012 | | CL | DP | 0.00 | 15,000,000.00 | -2,481,283,093.18 |
| 27 | 18/09/2012 | | CL | DP | 0.00 | 5,000,000.00 | -2,476,283,093.18 |
| 28 | 19/09/2012 | | CL | DP | 0.00 | 4,000,000.00 | -2,472,283,093.18 |
| 29 | 19/09/2012 | | CL | DP | 0.00 | 4,500,000.00 | -2,467,783,093.18 |
| 30 | 19/09/2012 | 000120829 | TR | WD | 249,700,000.00 | 0.00 | -2,717,483,093.18 |
| 31 | 20/09/2012 | 000120831 | CH | WD | 70,000,000.00 | 0.00 | -2,787,483,093.18 |
| 32 | 20/09/2012 | 000120830 | CH | WD | 15,000,000.00 | 0.00 | -2,802,483,093.18 |
| 33 | 20/09/2012 | | CL | DP | 0.00 | 33,960,000.00 | -2,768,523,093.18 |
| 34 | 21/09/2012 | | CL | DP | 0.00 | 45,345,000.00 | -2,723,178,093.18 |
| 35 | 24/09/2012 | | CL | DP | 0.00 | 33,500,000.00 | -2,689,678,093.18 |
| 36 | 24/09/2012 | | CL | DP | 0.00 | 32,432,300.00 | -2,657,245,793.18 |
| 37 | 24/09/2012 | 000120833 | TR | WD | 9,720,000.00 | 0.00 | -2,666,965,793.18 |
| 38 | 25/09/2012 | 000120836 | CH | WD | 120,000,000.00 | 0.00 | -2,786,965,793.18 |
| 39 | 25/09/2012 | 000120835 | TR | WD | 138,000,000.00 | 0.00 | -2,924,965,793.18 |

Account No : 0020101100000852

1 > Name : AUNG MYAT (U)

Address : NO. (37),, WAIZANYANTAR RD., (9) QUARTER, SOUTH OKA., SOUTHOKKALARPA, YANGON(EAST), YANGON, MYANMAR

| SNo | Date | Cheque No | T/T | T/C | Debit Amount | Credit Amount | Balance |
|---|---|---|---|---|---|---|---|
| 40 | 25/09/2012 | 000120834 | TR | WD | 50,000,000.00 | 0.00 | -2,974,965,793.1 |
| 41 | 26/09/2012 | | CL | DP | 0.00 | 32,056,000.00 | -2,942,909,793.1 |
| 42 | 26/09/2012 | | CL | DP | 0.00 | 82,944,000.00 | -2,859,965,793.1 |
| 43 | 26/09/2012 | | CL | DP | 0.00 | 85,000,000.00 | -2,774,965,793.1 |
| 44 | 27/09/2012 | 000120837 | CH | WD | 50,000,000.00 | 0.00 | -2,824,965,793.1 |
| 45 | 27/09/2012 | | TR | DP | 0.00 | 36,500,000.00 | -2,788,465,793.1 |
| 46 | 28/09/2012 | | TR | WD | 81,492,018.14 | 0.00 | -2,869,957,811.32 |
| 47 | 28/09/2012 | | TR | WD | 1,212,038.96 | 0.00 | -2,871,169,850.28 |
| 48 | 02/10/2012 | 000120839 | TR | WD | 30,000,000.00 | 0.00 | -2,901,169,850.28 |
| 49 | 02/10/2012 | 000120838 | CH | WD | 16,500,000.00 | 0.00 | -2,917,669,850.28 |
| 50 | 02/10/2012 | 000120841 | TR | WD | 24,500,000.00 | 0.00 | -2,942,169,850.28 |
| 51 | 03/10/2012 | | CH | DP | 0.00 | 3,400,000.00 | -2,938,769,850.28 |
| 52 | 03/10/2012 | | CH | DP | 0.00 | 965,753.00 | -2,937,804,097.28 |
| 53 | 03/10/2012 | | CH | DP | 0.00 | 1,000,000.00 | -2,936,804,097.28 |
| 54 | 03/10/2012 | | CL | DP | 0.00 | 8,170,000.00 | -2,928,634,097.28 |
| 55 | 03/10/2012 | | CL | DP | 0.00 | 1,500,000.00 | -2,927,134,097.28 |
| 56 | 03/10/2012 | | CL | DP | 0.00 | 4,000,000.00 | -2,923,134,097.28 |
| | 04/10/2012 | Balance | | | | | -2,923,134,097.28 |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| -2,817,466,125.51 | + | 1,398,023,953.00 | - | 1,503,691,924.77 | = | -2,923,134,097.28 |

No. of Withdrawals = 26

No. of Deposit = 30

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct.

I = Cash
TR = Transfer
L = Clearing
T/T = Type of Transaction
T/C = Type of Transaction Code

Deputy Manager
United Amara Bank Limited
MANAGER
ACCOUNTS DEPARTMENT

## စက်မှုဝန်ကြီးဌာန
## အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
## အုတ်ထုတ်လုပ်ရေးအလုပ်ရုံ (တညင်းကုန်း)တည်နေရာပြပုံ



# အထွတ်စက်ရုံ (တည်ပင်းကုန်း)၊ အလုပ်ရုံခွဲ (၃) တည်နေရာပြမြေပုံ




A = 12264.75 sqm

B = 925.68 sqm

C = 25245.07 sqm

☐ Mother Industrial Co., Ltd.,သို့ ငှားရမ်းမည့်

Unit = Meter

စက်မှုဝန်ကြီးဌာန

အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း

နှင့်

MOTHER INDUSTRIAL Co., Ltd.

တို့၏

ချုပ်ဆိုသော

မြေငှားရမ်းခြင်း သဘောတူစာချုပ်

(မူကြမ်း)

ရက်စွဲ ၂၀၁၂ ခုနှစ် ဩဂုတ်လ (၂၄)ရက်

## မြေငှားရမ်းခြင်းသဘောတူစာချုပ်

ဤမြေငှားရမ်းခြင်းစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ နေပြည်တော်တွင် ၂၀၁၂ ခုနှစ် ဩဂုတ်လ (၂၄ )ရက်နေ့တွင် ဦးဇော်ဟိန်း၊ ဦးဆောင်ညွှန်ကြားရေးမှူးကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ စက်မှုဝန်ကြီးဌာနလက်အောက်ရှိ ပြည်ထောင်စု မြန်မာနိုင်ငံ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသည့် "အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း" (ဤမှနောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုထားသော လွှဲအပ်ခြင်း ခံရသူများပါဝင်သည်ဟု မှတ်ယူရမည်။) က တစ်ဖက်

နှင့်

မန်နေဂျင်းဒါရိုက်တာ ဦးအောင်မြတ်၊ နိုင်ငံသား စိစစ်ရေးကဒ် ၁၂/ဥကတ (နိုင်) ၀၂၃၀၃၉ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသည့် Mother Industrial Co., Ltd. ရန်ကုန်မြို့၊ လမ်းမတော်မြို့နယ်၊ (၂)လမ်း၊ (၁)ရပ်ကွက်၊ အမှတ် (၄၄/၄၆) (ဤမှနောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ယင်းစကားရပ်တွင် စာသားအရ သော်လည်းကောင်း၊ အဓိပ္ပါယ်အရ သော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုထားသော လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်။) က အခြား တစ်ဖက်တို့သည် အောက်ပါအတိုင်း ချုပ်ဆိုကြပါသည်-

**ရည်ရွယ်ချက်**

(က) "အငှားချထားသူ" သည် ငှားရမ်းမည့်မြေကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြု အာမခံချက်ပေးသဖြင့်လည်းကောင်း၊

(ခ) "အငှားချထားသူ" သည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ ဘုရင့်နောင်လမ်းမကြီးဘေး၊ သံမဏိစက်ရုံ၏ မြောက်ဘက် လှိုင်မြစ်ကမ်းဘေးရှိ ပူးတွဲအမှတ် (၁)တွင် ပန်းရောင်ဖြင့် ဘောင်ခတ်ထားသော ဖေါ်ကန်ဆိပ်ကမ်းမြေ (၂၃.၂၉)ဧကကျယ်ဝန်းသော မြေနေရာ (နောင်တွင် "ငှားရမ်းမည့်မြေ" ရည်ညွှန်းခေါ်ဆိုရမည်။)ကို ငှားရမ်းလိုသော ဆန္ဒရှိပြီး "အငှားချထားခြင်းခံရသူ" က အောက်တွင် ဆက်လက်ဖော်ပြမည့် စည်းမျဉ်းစည်းကမ်းများနှင့်အညီ ငှားရမ်းမည့်မြေကို ငှားယူလိုသဖြင့်လည်းကောင်း၊

ဤမြေငှားရမ်းခြင်း၊ သဘောတူစာချုပ်ကို နှစ်ဦးနှစ်ဖက် အကျေအလည် ညှိနှိုင်းပြီး တစ်ဖက်ပါအတိုင်း သဘောတူကြပါသည်-

သဘောတူစာချုပ်၏အတိုင်းအတာ

၁။ "အငှားချထားသူ" က ပူးတွဲအမှတ် (၁)တွင် ပန်းရောင်ဖြင့် ဘောင်ခတ်ထားသော (၂၃.၂၉)ဧက ကျယ်ဝန်းသည့် ငှားရမ်းမည့်မြေနေရာကို ၂၀၁၂ ခုနှစ် စက်တင်ဘာလ (၁)ရက်နေ့မှစ၍ (၁၅)နှစ်ကာလအထိငှားရမ်းပါမည်။ စာချုပ်သက်တမ်းတိုးမြှင့်လိုပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်းပြီးစက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေး နှင့် ဘဏ္ဍာရေး ဆိုင်ရာကော်မတီ၏ သဘောတူညီချက်အရ ဆက်လက်ဆောင်ရွက်ရမည်။

၂။ စာချုပ်သက်တမ်းကုန်ဆုံးနေ့မှစ၍ (၁၅)ရက်အတွင်း ငှားရမ်းသည့် မြေနှင့်တကွ အဆောက်အဦအားလုံးနှင့် ဆက်စပ်ပတ်သက်နေသောပစ္စည်းအားလုံးတို့ကိုအသားတင် တန်ဖိုးဖြင့်"အငှားချထားခြင်းခံရသူ"က"အငှားချထားသူ"ထံသို့လွှဲပြောင်းပေးရမည်။

၃။ စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက "အငှားချထားသူ" သို့ တင်ပြပြီး "အငှားချထားသူ" ၏ သဘောတူညီချက်အရ စက်မှုဝန်ကြီးဌာန၊ ပစ္စည်း ဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ ခွင့်ပြုချက်ဖြင့် ဆက်လက် ငှားရမ်းနိုင်သည်။

Premium ကြေးပေးသွင်းခြင်း

၄။ ငှားရမ်းမည့် ဖော့ကန်ဆိပ်ကမ်းမြေ (၂၃.၂၉)ဧကအား (၁၅)နှစ် ငှားရမ်းခအတွက် မြေ အသုံးချမှု ပရီမီယံ (Land Use Premium)အဖြစ် ကျပ်(၂၄၈၈.၃၂၂)သန်း၏ (၅၀%) ဖြစ်သော ကျပ်(၁၂၄၄.၁၆၁)သန်းအား စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်လ အတွင်း ပေးသွင်းရမည်ဖြစ်ပြီး ကျန်ငွေ (၅၀%)အား တစ်နှစ်လျှင် ကျပ် (၈၂.၉၄၄)သန်း ကို နှစ်စဉ်ကြေးအဖြစ် တစ်နှစ်တစ်ကြိမ်ပေးသွင်းရမည်။ Premium ကြေးပေးသွင်းပြီး မှသာ ငှားရမ်းခြင်း စာချုပ် အတည်ဖြစ်မည်ဖြစ်သည်။

၅။ "အငှားချထားခြင်းခံရသူ" မှ Premium ကြေးပေးသွင်းရန် နောက်ကျခဲ့ပါက ရက်သတ္တ ပါတ် တစ်ပတ်နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် Premium ကြေး၏ (၀.၅%) ပေး သွင်းရမည်။ ရက်လွန်ကြေးသည် စုစုပေါင်း (၂.၅%)ထက်မပိုစေရ။

မြေငှားရမ်းခ

၆။ "အငှားချထားသူ"က"အငှားချထားခြင်းခံရသူ"သို့ ၁၅နှစ် (တစ်ဆယ့်ငါးနှစ်) ၂၀၁၂ ခုနှစ် စက်တင်ဘာလ (၁)ရက်နေ့မှ ၂၀၂၇ခုနှစ် ဩဂုတ်လ (၃၁)ရက်နေ့ထိ ကာလအတွက် ငှားရမ်းခြင်း ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခမှာ ကျပ် (၈၂.၉၄၄)သန်း (ကျပ်ရှစ်ဆယ့် နှစ်သန်းကိုးသိန်းလေးသောင်းလေးထောင်တိတိ) ဖြစ်ပါသည်။ အငှားချထားခြင်းခံရသူ သည် ငှားရမ်းခ ကျသင့်ငွေအား စတင် ငှားရမ်းသည့်အချိန်မှစ၍ နှစ်စဉ်တစ်လအတွင်း တစ်နှစ်စာတစ်လုံးတစ်ခဲတည်း ပေးချေ ရမည်။

၇။ မြေငှားရမ်းခပေးသွင်းရန် နောက်ကျပါက ရက်သတ္တပါတ်၊ တစ်ပါတ်နောက်ကျတိုင်း ရက်လွန်ကြေး တစ်နှစ်ငှားရမ်းခ၏ (၀.၅%) အငှားချထားခြင်းခံရသူမှ ပေးသွင်းရမည်။ ရက်လွန်ကြေးသည် စုစုပေါင်း (၂.၅%)ထက်မပိုစေရ။

၈။ မြေငှားရမ်းခနှုန်းထားနှင့်ပတ်သက်၍ အငှားချထားသူက အငှားချထားခြင်းခံရသူထံသို့ မြေငှားရမ်းခနှုန်းကို နှစ်စဉ် ညှိနှိုင်း၍ တိုးတောင်းပိုင်ခွင့်ရှိသည်။ ထိုသို့ တိုးတောင်းရာ၌ ယမန်နှစ် မြေငှားရမ်းခ တစ်နှစ်နှုန်းထား၏ ၁၀% (တစ်ဆယ်ရာခိုင်နှုန်း) စီထက် မပိုသော နှုန်းဖြစ်စေရမည်။ အငှားချထားခြင်းခံရသူသည် ယင်းသို့တိုးမြှင့်တောင်းခံသည့် နှုန်းထား အရ မူလသတ်မှတ်သည့် မြေငှားရမ်းခထက် ပိုသောငွေကို အငှားချထားသူအား နှစ်စဉ် ပေးချေရမည်။

၉။ ငှားရမ်းကာလ (၁၅)နှစ် ကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းခဲ့ပါက ဆက်လက်ငှားရမ်း မည့်နှစ်အား (၅)နှစ်သတ်မှတ်ပြီး (၅)နှစ်၊ (၃)ကြိမ် ဆက်လက်ငှားရမ်းခွင့်ရှိပြီး မြေငှား ရမ်းခကို နှစ်စဉ်ပေးချေရမည်။ နှစ်စဉ် တစ်နှစ်ကုန်ဆုံးပြီး ပထမလအတွင်း တစ်လုံး တစ်ခဲတည်းပေးချေရမည်။ ငှားရမ်းခသည် နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူသည့်နှုန်း ဖြစ်ရမည်။ မြေငှားရမ်းခနှုန်းထားနှင့်ပတ်သက်၍ ငှားရမ်းကာလ (၁၅)နှစ် ကုန်ဆုံးပြီး နောက် ဆက်လက်ငှားရမ်းခဲ့ပါက ယင်းအချိန်တွင် ဖြစ်ပေါ်လာနိုင်မည့် အခြေအနေပေါ် မူတည်၍ နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်မည် ဖြစ်ပါသည်။

## မြေငှားရမ်းခြင်းသဘောတူစာချုပ်၏အကျိုးသက်ရောက်မှုနှင့်ကာလ

၁၀။ ဤ "မြေငှားရမ်းခြင်းသဘောတူစာချုပ်" သည် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူ ရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ သဘောတူခွင့်ပြုချက်ရရှိပြီးနောက် ဤစာချုပ်အပေါ်တွင် နှစ်ဖက်သော "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့က လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်ရမည်။

၁၁။ ငှားရမ်းခြင်း၏ (၁၅)နှစ်ကာလကို ၂၀၁၂ ခုနှစ် စက်တင်ဘာလ (၁)ရက်နေ့မှစ၍ နှစ်ပေါင်း (၁၅)နှစ်ကာလအထိ အငှားချထားခွင့်ပြုခြင်းဖြစ်သည်။

၁၂။ ငှားရမ်းမှုကာလကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုပါက "အငှားချထားသူ" သို့ တင်ပြပြီး "အငှားချထားသူ" ၏ သဘောတူညီချက်အရ "စက်မှုဝန်ကြီးဌာန၊ ပစ္စည်း ဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ" ၏ ခွင့်ပြုချက်ဖြင့် ဆက်လက် လုပ်ဆောင်နိုင်သည်။

## "အငှားချထားခြင်းခံရသူ"၏ တာဝန်များ

၁၃။ "အငှားချထားခြင်းခံရသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းခများကို အထက်အပိုဒ်ခွဲ (၄)၊(၅)နှင့်(၆)တွင် ပါရှိသည့်အတိုင်း ပေးချေ ရန်နှင့်မြေခွန်မှအပ အခြားဝန်ဆောင်မှုအခွန်အခများကို တာဝန်ယူ ပေးဆောင်ရန်။

(ခ) "အငှားချထားခြင်းခံရသူ" သည်စာဖြင့် သဘောတူညီချက် ရရှိထားသည် မှအပ ငှားရမ်းမည့် မြေနေရာအားလုံးကိုလည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကိုသော် လည်းကောင်း၊ ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း၊ ပေါင်နှံခြင်း (သို့မဟုတ်) လွှဲ အပ်ခြင်း စသည်တို့ကို လုံးဝမပြုလုပ်ရန်။

(ဂ) ငှားရမ်းမည့်မြေနေရာသို့ "အငှားချထားသူ" ၏ ကိုယ်စား တာဝန်ပေးအပ်ခြင်းခံရသူများအား ၎င်းတို့၏တာဝန်များကို ထမ်းဆောင်နိုင်ရန်အတွက် ဝင်ရောက်ခွင့်ပြုရန်။

(ဃ) ငှားရမ်းမည့်မြေ (သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများအားလုံးသည် စက်မှုဝန်ကြီးဌာန နှင့် ဆက်နွယ်သက်ဆိုင်သည့်လုပ်ငန်း ဖြစ်စေရမည့်အပြင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တရားဥပဒေများနှင့် အညီအညွတ်ဖြစ်ကြောင်း အာမခံ ချက်ပေးရန်။

(င) ငှားရမ်းမည့်မြေ (သို့မဟုတ်) ၎င်း၏အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် စည်ပင်သာယာခွန်များ၊ နှုန်းထားများ (သို့မဟုတ်) စည်းကြပ်ခွန်များအားလုံးကို အချိန်မှီပေးချေရန်။

"အငှားချထားသူ"၏ တာဝန်များ

၁၄။ "အငှားချထားသူ" ၏ တာဝန်များမှာ အောက်ပါအတိုင်းဖြစ်သည်-

(က) ငှားရမ်းမည့်မြေကို "အငှားချထားခြင်းခံရသူ" အား လက်ရောက်ပေးအပ်ရန်။

(ခ) ငှားရမ်းမည့်မြေ (သို့မဟုတ်) ရည်မှန်းထားသည့်လုပ်ငန်းနှင့် သင့်လျော်သော အသုံးအဆောင်များဆောက်လုပ်ရန်အတွက် "အငှားချထားခြင်းခံရသူ" အား ငှားရမ်းမည့် မြေပေါ်သို့ ငြိမ်သက်စွာနှင့် အေးချမ်းစွာဝင်ရောက်ခွင့်ပြုရန်။ သို့ရာတွင် ၎င်းအသုံးအဆောင်များ ဆောက်လုပ်မှုကို "အငှားချထားသူ" သို့ ကြိုတင်ညှိနှိုင်းသဘောတူညီချက်ရယူပြီးမှသာ ဆောက်လုပ်ရန်။

(ဂ) "အငှားချထားခြင်းခံရသူ" အား မြေငှားသဘောတူစာချုပ်သက်တမ်းကာလအတွင်း မည်သည့်အနှောက်အယှက်အဟန့်အတားမျှမရှိဘဲ "အငှားချထားသူ" ၏ ယုံမှတ်အပ်နှံခံရသူအနေဖြင့် ငှားရမ်းမည့်မြေကို ငြိမ်သက်စွာနှင့် အေးချမ်းစွာဖြင့် လက်ဝယ်ရယူထားခွင့်ပြုရန်။

(ဃ) ငှားရမ်းမည့်မြေ၊ အဆောက်အဦတို့နှင့်ပတ်သက်၍ ကျသင့်သောမြေခွန်ကို ပေးဆောင်ရန်။

၁၅။ "အငှားချထားခြင်းခံရသူ" သည် ဤမြေငှားသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်များကို ပေးချေရန်အတွက်လည်းကောင်း၊ ဤမြေငှားသဘောတူစာချုပ်၏ ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ခြင်း၊ အဆောက်အဦဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကိုလည်း ပေးချေရန်အတွက်လည်းကောင်း တာဝန်ရှိသည်။

၁၆။ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ" ၏ တရားဝင်စာဖြင့် ခွင့်ပြုချက်မရဘဲ ဤမြေငှားသဘောတူစာချုပ်၏ရည်ရွယ်ချက်တစ်စုံတစ်ရာကို ပြောင်းလဲခြင်း (သို့မဟုတ်)

တည်ဆောက်ထားသော အဆောက်အဦများကို ပြောင်းလဲခြင်းမပြုရန် သဘောတူပါသည်။

သယံဇာတပစ္စည်းဆိုင်ရာကိစ္စ

၁၇။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့်မြေ၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့တွေ့ရှိလျှင် ထိုပစ္စည်းများကို "အငှားချထားသူ"က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ" သည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရမည်။ "အငှားချထားသူ" သည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ပိုင်ခွင့်ရှိစေရမည်။

ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၁၈။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်အတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန၊ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များ ရရှိပြီးမှသာ လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၉။ "အငှားချထားခြင်းခံရသူ" သည် ဆောက်လုပ်ထားသောအဆောက်အဦများနှင့် ၎င်းတို့၏ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့်ညစ်ညမ်းမှုတို့မှ ကာကွယ်ရန်အတွက် လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို ပြုလုပ်ရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေးတောင်းဆိုမှုမျိုးကိုမဆို "အငှားချထားသူ" အပေါ်တွင် တာဝန်မရှိစေရ။

စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

၂၀။ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများ အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ်ကြောင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦးနှစ်ဖက် စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

## မြေသို့ ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၂၁။ "အငှားချထား" ခြင်းခံရသူသည် ဤမြေငှားသဘောတူစာချုပ်၏ စည်းမျဉ်းစည်းကမ်းများကို လိုက်နာရန် ပျက်ကွက်ပြီး၊ ထိုသို့ ပျက်ကွက်မှုအတွက် "အငှားချထားသူ"က ပေးပို့သော အကြောင်းကြားစာရရှိပြီးနောက် ရက်ပေါင်းသုံးဆယ်အတွင်း ပျက်ကွက်မှုကို ပြန်လည်၍ မှန်အောင်ပြင်ဆင်ခြင်းမပြုလျှင် "အငှားချထားသူ" သည် ငှားရမ်းသည့်မြေပေါ်သို့ ပြန်လည်ဝင်ရောက်ခွင့်၊ မြေအားလုံးကို ပြန်လည်ရယူခွင့်ရှိသည့်အပြင် ထိုသို့ ရယူချိန်မှစ၍ မြေငှားရမ်းမှုကို ရပ်စဲပြီးဆုံးစေရမည်။ မြေသို့ပြန်လည်ဝင်ရောက်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရှိမည့်အခွင့်အရေးနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

## သဘောတူစာချုပ်ကို ပြင်ဆင်ခြင်း

၂၂။ ဤမြေငှားရမ်းသဘောတူစာချုပ်တွင် မပါဝင်သောအချက်အလက် (သို့မဟုတ်) အခြေအနေတစ်ရပ်ပေါ်ပေါက်ပြီး စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် အချင်းချင်းညှိနှိုင်းပြီး စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ သဘော တူညီချက်ရယူပြီး ပြင်ဆင်ရမည်။ ထိုပြင်ဆင်ချက်များကို ဤမြေငှားသဘောတူစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် မှတ်ယူရမည်။

## ကိုယ်စားပြုခြင်းနှင့်အာမခံခြင်း

၂၃။ ဤမြေငှားသဘောတူစာချုပ်ဝင်တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်သို့ ၎င်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၏ တည်ဆောက်ဆဲဥပဒေများအရ ဖွဲ့စည်း၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင် ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ဤမြေငှားရမ်းသဘောတူစာချုပ်ကို ချုပ်ဆိုရန်အခွင့်အရေး၊ လုပ်ပိုင်ခွင့်အာဏာနှင့် ခိုင်မာသော ဘဏ္ဍာရေးရပ်တည်မှုရှိကြောင်း ကိုယ်စားပြု အာမခံပါသည်။

## အငြင်းပွားမှုဖြေရှင်းခြင်း

၂၄။ ဤမြေငှားရမ်းခြင်းသဘောတူစာချုပ် နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာဖြစ်ပေါ်လာပါက နှစ်ဦးနှစ်ဖက်မှ ပြေလည်စွာ စေ့စပ်ဆွေးနွေးသည့် နည်းလမ်းဖြင့် ဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

မလွန်ဆန်နိုင်သောဖြစ်ရပ်များ

၂၅။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်ကလိုအပ်သော သတိဝီရိယ နှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းခွင့်မရှိစေရ။

ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်သောဖြစ်ရပ်မြောက်ပြီး၊ မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့် ပြုနိုင်သည်။

သဘောတူစာချုပ်ရပ်စဲခြင်း

၂၆။ ဤသဘောတူစာချုပ်သည် သက်တမ်းတိုးမြှင့်ခြင်း အပါအဝင် ဤသဘောတူစာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါတွင် ရပ်စဲပြီးဖြစ်ရမည်။ စာချုပ်သက်တမ်း မကုန်ဆုံးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ဖြစ်စေ၊ အငှားချထားသူမှ (၆)လ ကြိုတင်အကြောင်းကြား၍ စာချုပ်ကို ရပ်စဲနိုင်သည်။

ပစ္စည်းများလွှဲပြောင်းပေးခြင်း

၂၇။ ဤမြေငှားသဘောတူစာချုပ်သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် "အငှားချထားခြင်းခံရသူ" က ဆောက်လုပ်ထားသော အဆောက်အဦမှန်သမျှ ကောင်းမွန်စွာ ပြုပြင်ထိန်းသိမ်းထားသော အနေအထားအတိုင်း အသားတင်တန်ဖိုးဖြင့် "အငှားချထားသူ" ပိုင်ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "အငှားချထားသူ" သည် "အငှားချထားခြင်းခံရသူ" က လွှဲပြောင်းပေးမည့် အဆောက်အဦများအားလုံးကိုလည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ ၎င်းပိုင်ပစ္စည်းအဖြစ် လက်ခံရန်ဆန္ဒမရှိလျှင် "အငှားချထားသူ" က လက်မခံနိုင် ကြောင်းညွှန်ပြသည့် အဆောက်အဦများအားလုံးကို "အငှားချထားခြင်းခံရသူ" ၏ ကုန်ကျစရိတ်များဖြင့် လုံးဝဖယ်ရှားပေးရ

မည်။ ထိုသို့ ဖယ်ရှားမှုကြောင့် ပေါ်ပေါက်လာသော အခြားအဆောက်အဦများနှင့် ပစ္စည်းများ၏ပျက်စီးဆုံးရှုံးမှုများကိုလည်း "အငှားချထားခြင်းခံရသူ" က ပြုပြင်ပေးရန် တာဝန်ယူရမည်။

ဖော်ပြပါအချက်အလက်များကို သိရှိသဘောပေါက် နားလည်ပြီးသည့်အလျောက် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်၏ အထက်တွင် ဖော်ပြထားသော ခုနှစ်၊ လနှင့် နေ့ရက်တွင် မိမိတို့၏ တံဆိပ်နှင့်လက်မှတ်များကို ရိုက်နှိပ်ရေးထိုး သဘောတူညီကြပါသည်-

**အငှားချထားသူ (ကိုယ်စား)**

ဇော်ဟိန်း
ဦးဆောင်ညွှန်ကြားရေးမှူး
(အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း)

**အငှားချထားခြင်းခံရသူ (ကိုယ်စား)**

အောင်မြတ်
မန်နေဂျင်းဒါရိုက်တာ
၁၂/ဥကတ (နိုင်) ၀၂၃၀၃၉
Mother Industrial Co., Ltd.

**အသိသက်သေများ**

လက်မှတ်
အမည် ဇော်မြင့်
ရာထူး - ညွှန်ကြားရေးမှူး (ပစ္စည်းစီမံရေး)
အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း

လက်မှတ်
အမည် - မောင်မောင်ဝင်း
ရာထူး - ဒါရိုက်တာ
မှတ်ပုံတင်အမှတ်- ၁၂/ကမရ(နိုင်)၀၂၈၇၁၉
လိပ်စာ - အမှတ်၉၇/ဇသံလွင်လမ်း
ကမာရွတ်မြို့နယ်၊
ရန်ကုန်မြို့။

လက်မှတ် 25-8-2012
အမည် - ခင်မြတ်မွန်
ရာထူး - ညွှန်ကြားရေးမှူး(ဘဏ္ဍာရေးဌာန)
အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း

# စက်မှုဝန်ကြီးဌာန
# အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
# ဖေါ့ကန်ဆိပ်ကမ်းမြေ တည်နေရာပြပုံ



**MOTHER TRADING CO., LTD.**
**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

MOTHER TRADING CO., LTD. YANGON. No ........ Date ........

## ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ။ ၂၂. ၁၀. ၂၀၁၂
ကျင်းပသည့်အချိန် ။ ။ နံနက်(၁၀:၀၀) နာရီ
ကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီရုံးခန်း၊အစည်းအဝေးခန်းမ

| တက်ရောက်သူများ | ရာထူး | လက်မှတ် |
|---|---|---|
| ၁။ ဦးအောင်မြတ် | Managing Director | ---------------- |
| ၂။ ဒေါ်မြင့်မြင့်အေး | Director | ---------------- |
| ၃။ ဦးမောင်မောင်ဝင်း | Director | ---------------- |

**အစည်းအဝေးဆုံးဖြတ်ချက်များ**

Mother Industrial Co., Ltd တွင် ပါဝင်သူများမှာ Mother Trading Co., Ltd တွင်ပါဝင်သော ဒါရိုက်တာအဖွဲ့ဝင်များဖြစ်ပါသည်။ ညီနောင်ကုမ္ပဏီများဖြစ်၍ Mother Industrial Co., Ltd မှာ လောလောဆယ်တွင် ပြည်တွင်းငွေ၊ နိုင်ငံခြားငွေဘဏ်စာရင်း ဖွင့်လှစ်ထားခြင်း မရှိသေးပါ၍ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ ဖော့ကန်နှင့် တညင်းကုန်းနယ်မြေတို့တွင် တည်ဆောက်မည့် အဆင့်မြင့် ကွန်ကရစ်အုတ်စက်ရုံ (၃)ရုံ အတွက် လိုအပ်သည့် စက်ပစ္စည်းများ မှာယူတင်သွင်းရာတွင် သုံးစွဲရန်အတွက် Mother Trading Co., Ltd ၏ MFTB တွင် ဖွင့်လှစ်ထားသည့် နိုင်ငံခြားငွေစာရင်းအမှတ်- 1DA 04 97445 မှ ကျခံသုံးစွဲရန်နှင့် စက်ရုံများ တည်ဆောက်မှုအပါအဝင် ပြည်တွင်းကုန်ကျစရိတ်များကိုလည်း Mother Trading Co., Ltd ၏ ပြည်တွင်း ငွေဘဏ်စာရင်းမှ ကျခံသုံးစွဲရန် သဘောတူကြပါသည်။

| အတည်ပြုသူ | မှတ်တမ်းတင်သူ |
|---|---|
| U AUNG MYAT<br>MANAGING DIRECTOR<br>MOTHER TRADING CO., LTD. | MYINT MYINT AYE<br>DIRECTOR<br>MOTHER TRADING CO., LTD. |

**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

# MOTHER INDUSTRIAL CO., LTD.

**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ (၂၉)ရက်

အကြောင်းအရာ ။ ။ <u>နိုင်ငံခြားငွေလက်ကျန်စာရင်း ရှင်းလင်းတင်ပြခြင်း။</u>

ကျွန်တော်များ စက်ရုံတည်ဆောက်မှုအတွက် လိုအပ်သည့်စက်ပစ္စည်းများ ဝယ်ယူရာတွင်သုံးစွဲရန် အတွက် Mother Trading Co.,Ltd. ၏ MFTB တွင် ဖွင့်လှစ်ထားသည့် နိုင်ငံခြားငွေစာရင်းအမှတ် 1DA 04 97445 တွင် စာရင်းလက်ကျန် (USD 4114.89)မှာ မှန်ကန်ပါသည်။ Mother Trading Co.,Ltd. မှာ နိုင်ငံခြားသွင်းကုန်/ထုတ်ကုန်လုပ်ငန်းများ ဆောင်ရွက်ပါရန် ဘဏ်စာရင်းတွင် ငွေဝင်/ထွက် အစဉ်မပြတ် ရှိပါသည်။ စက်ပစ္စည်းဝယ်ယူရာတွင် သုံးစွဲရန်ရှိပါက လုံလောက်အောင်လွှဲယူသုံးစွဲမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မြတ်
(အုပ်ချုပ်မှုဒါရိုက်တာ)
MOTHER INDUSTRIAL CO.,LTD.


**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

# MOTHER INDUSTRIAL CO., LTD.

**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ ။ ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ (၂၉)ရက်။

အကြောင်းအရာ ။ ။ နိုင်ငံခြားငွေသုံးစွဲမှု ရှင်းလင်းတင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Mother Industrial Co., Ltd. သည် MFTB တွင် နိုင်ငံခြားငွေစာရင်းအမှတ် – IDA 0402779/ ရက်စွဲ –(၂၀.၈.၂၀၁၂)ဖြင့် ငွေစာရင်းဖွင့်လှစ်ထားရှိပြီး ဖြစ်ပါသည်။

စက်ရုံတည်ဆောက်ခွင့် MIC ခွင့်ပြုချက်ရပါက လိုအပ်သည့်ငွေကြေးကို ဦးအောင်မြတ်၏ တစ်ဦးတည်းပိုင်ကုမ္ပဏီဖြစ်သော Mother Trading Co., Ltd. ၏ ငွေစာရင်းများမှ စာရင်းပြောင်းထုတ်ယူ သုံးစွဲမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မြတ်
(အုပ်ချုပ်မှုဒါရိုက်တာ)
MOTHER INDUSTRIAL CO., LTD.

**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

နှစ်ဦးနှစ်ဖက် ညှိနှိုင်းသတ်မှတ်ရမည်။ ထိုသို့ သက်တမ်းတိုးမြှင့်ခြင်း၊ ငှားရမ်းခနှုန်းထား ပြင်ဆင်ခြင်းတို့သည် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ အတည်ပြုချက်ရယူ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရယူပြီးမှ အတည်ဖြစ်စေ ရမည်။

## အငြင်းပွားမှုဖြေရှင်းခြင်း

၁၈။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက အငြင်းပွားမှုကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ဖြေရှင်းကြရမည်။ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေ နှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

## သယံဇာတပစ္စည်းဆိုင်ရာကိစ္စ

၁၉။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့်မြေ၏ မြေပေါ်မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊သဘာဝသယံဇာတပစ္စည်း များ၊ ရှေးဟောင်းပစ္စည်းများ၊ကျောက်မျက်ရတနာများအစရှိသည်တို့တွေ့ရှိလျှင် ထိုပစ္စည်းများကို "အငှားချထားသူ" က ပိုင်ဆိုင်ရမည့်အပြင် "အငှားချထားသူ"သည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရ အဖွဲ့အစည်းသို့လွှဲပြောင်းတင်ပြရမည်။ "အငှားချထားသူ"သည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ပိုင်ခွင့်ရှိစေရမည်။

## ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၀။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါ ဖြစ်စေ ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့(သို့မဟုတ်) ရပ်စဲသည့်နေ့မှ (၄၅)ရက်အတွင်း အငှားချထားသည့်စက်ရုံ၊ မြေ၊ အဆောက်အဦနှင့် စက်ကိရိယာများကို "အငှားချ ထားသူ" သို့ အဖိုးစားနားမပါရှိဘဲ ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရ မည်။

## မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၂၁။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင်နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှား နိုင်သည့် အလားတူ ဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့်ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံ ခွင့်မရှိစေရ ။

၂၂။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး) ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ခြင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "အငှားချထားသူ"က လက်ခံအတည်ပြုလျှင်မလွန်ဆန်နိုင်သော ဖြစ်ရပ်ပြောက်ပြီး စက်ရုံမြေ၊ အဆောက်အဦနှင့်စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့်တိုက်ရိုက် သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

## ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၂၃။ "အငှားချထားခြင်းခံရသူ"သည် ဆောက်လုပ်ထားသော အဆောက်အဦများနှင့် ၎င်းတို့၏ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုတို့မှ ကာကွယ်ရန်အတွက် လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို ပြုလုပ်ရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေးတောင်းဆိုမှုမျိုးကိုမဆို "အငှားချထားသူ" အပေါ်တွင် တာဝန်မရှိစေရ။

## ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၂၄။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်အတိုင်း လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန၊ အာဏာပိုင် အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်း များ အကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

## စာချုပ်အား ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း

၂၅။ ဤသဘောတူစာချုပ်တွင် ပါရှိသည့် စည်းကမ်းချက်များသည် လုပ်ငန်းများ အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်သည့်အခါ ကြိုတင်မမျှော်မှန်းနိုင်သည့် အခြေအနေတစ်ရပ်ရပ် ကြောင့် လုပ်ငန်းများ ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်လျှင် စာချုပ်ဝင်ပုဂ္ဂိုလ်များသည် နှစ်ဦး နှစ်ဖက်စေ့စပ်ညှိနှိုင်းပြီး စာချုပ်ပါစည်းကမ်းချက်များကို ပြန်လည်စေ့စပ်ညှိနှိုင်းဆောင်ရွက်ရမည်။

## စာချုပ်အတည်ဖြစ်ခြင်း

၂၆။ ဤစာချုပ်သည် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ လက်မှတ်ရေးထိုးပြီးပါက အတည်ဖြစ်သည်။

## စာချုပ်ပြင်ဆင်ခြင်း

၂၇။ ဤစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းတို့ ပြုလုပ် လိုပါက "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏

အတည်ပြုချက် ရယူ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်၏ ခွင့်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

၂၈။ "အငှားချထားခြင်းသည့်ခံရသူ" မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရတွက်ချေကိုက်မှုမရှိခြင်း၊ အခြားသော အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လ ကြိုတင် အကြောင်းကြားရမည်။

## စာချုပ်ရုပ်စဲခြင်း

၂၉။ စာချုပ်ရုပ်စဲခြင်းနှင့်ပတ်သက်၍ စာချုပ်ကိုအောက်ပါ အကြောင်းအရပ်များတစ်ခုခု ဖြစ်ပေါ်လာပါက စက်မှုဝန်ကြီးဌာနနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရယူ၍ စာချုပ်ကို ရုပ်စဲခွင့်ရှိသည်-

(က) မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း အစရှိသော မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့်ဖြစ်စေ အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အားရုပ်စဲလိုပါက ရုပ်စဲလိုကြောင်းစာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ (၃)လကြိုတင် နို့တစ်ပေးခြင်း။

(ဂ) စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှ ဖောက်ဖျက်ကျူးလွန်ခြင်း။

(ဃ) "အငှားချထားခြင်းခံရသူ"က လူမွဲအဖြစ်ခံယူသွားခြင်း။

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

၃၀။ စာချုပ်သက်တမ်းမကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ဖြစ်စေ၊ ပုဂ္ဂလိကပိုင်ပြုလုပ်ရန်ဖြစ်စေ "အငှားချထားသူ" မှ (၃) လ ကြိုတင်အကြောင်းကြား၍ စာချုပ်ကို ရုပ်စဲနိုင်သည်။ ယင်းသို့ဆောင်ရွက်ရာတွင် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီသို့ တင်ပြအတည်ပြုချက်ရယူရမည်။

## ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၃၁။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်၏ စည်းမျဉ်းစည်းကမ်းများကို လိုက်နာရန်ပျက်ကွက်ပြီး၊ ထိုသို့ပျက်ကွက်မှုအတွက် "အငှားချထားသူ" က ပေးပို့သော အကြောင်းကြားစာရရှိပြီးနောက် ရက်ပေါင်း သုံးဆယ်အတွင်း ပျက်ကွက်မှုကို ပြန်လည်၍ မှန်အောင်ပြင်ဆင်ခြင်းမပြုလျှင် "အငှားချထားသူ" သည် ငှားရမ်းသည့်စက်ရုံနှင့် မြေကို ပြန်လည်ဝင်ရောက်ခွင့်၊ ပြန်လည်ရယူခွင့်ရှိသည့်အပြင် ထိုသို့ ရယူချိန်မှစ၍ ငှားရမ်းမှုကို ရုပ်စဲပြီးဆုံးစေရမည်။ ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူသည့် အခွင့်အရေးများသည် ဤစာချုပ်ပါ "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ"ထံမှ ရရှိမည့်အခွင့်အရေးနှင့် ငှားရမ်းခ (သို့)ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်များကို မထိ ခိုက်စေရ။

၃၂။ ဤစာချုပ်တွင်ပါရှိသောမြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၃။ အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေအစုံအလင် ရှေ့မှောက်တွင် ၂၀၁၂ခုနှစ် ဩဂုတ်လ (၂၄ )ရက်နေ့တွင် အငှားချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုးကြပါသည် -

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| ဇော်ဟိန်း | အောင်မြတ် |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| (အမှတ် (၃) အကြီးစားစက်မှုလုပ်ငန်း) | ၁၂/ဥကတ (နိုင်) ၀၂၃၀၃၉ |
| | Mother Industrial Co., Ltd. |

## အသိသက်သေများ

| | | | |
|---|---|---|---|
| လက်မှတ် | | လက်မှတ် | |
| အမည် | ဇော်မြင့် | အမည် | မောင်မောင်ဝင်း |
| ရာထူး | ညွှန်ကြားရေးမှူး(ပစ္စည်းစီမံရေး) | မှတ်ပုံတင်အမှတ် | ၁၂/ကမရ (နိုင်)၀၂၈၇၁၉ |
| လိပ်စာ | အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း | လိပ်စာ | အမှတ် ၉၇/၈ သံလွင်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |

လက်မှတ် ၂၄-၈-၂၀၁၂

အမည် ခင်မြတ်မွန်

ရာထူး ညွှန်ကြားရေးမှူး(ဘဏ္ဍာရေး)

လိပ်စာ အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း

လက်မှတ်

အမည် ဇော်ဝင်း

ရာထူး စက်ရုံမှူး

လိပ်စာ အမှတ်(၃၄)အကြီးစားစက်ရုံ (သာယာဝတီ)
အုတ်ထုတ်လုပ်ရေးအလုပ်ရုံ (တည်င်းကုန်း)

အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း
အုတ်ထုတ်လုပ်ရေးအလုပ်ရုံ၏ အချက်အလက်များ

၁။ တည်နေရာ

အုတ်ထုတ်လုပ်ရေးအလုပ်ရုံသည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ တညင်းကုန်းရပ်ကွက်တွင် တည်ရှိပြီး၊ ရန်ကုန်မြို့မှ (၁၃)မိုင် ကွာဝေးပါသည်။

၂။ မြေနေရာအကျယ်အဝန်း - ၂၃၇.၆၂၉က

၃။ အဆောက်အဦစာရင်း

| စဉ် | အမျိုးအမည် | အတိုင်းအတာ | အမျိုးအစား | အရေအတွက် |
|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ |
| | အလုပ်ရုံခွဲ (၁) | | | |
| ၁ | Manufacturing Room | 120'x133'x20' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၂ | Kiln Building | 313'-6"x54'x19'<br>313'x-6"x47'x19' | အမိုးပြားမိုး၊ အကာမဲ့၊ ကွန်ကရီခင်း | ၂ |
| ၃ | Workshop Building | 120'x38'x15' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၄ | Clay Preparation Plant Building | 120'x38'x14',<br>50'x30'x16' | သွပ်မိုး၊ အကာမဲ့ | ၁ |
| ၅ | Generator House | 60'x22'x13' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၆ | Dryer Conversion | 24'x16'x8'-6" | အမိုးပြားမိုး၊ အကာမဲ့ | ၁ |
| ၇ | Time Keeper Building | 18'x14'x9' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၈ | Delivery Clerks Office | 16'x11'x8'-6" | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၉ | Motor Garage | 20'x9'-6"x8'-6" | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၁၀ | Factory Latrite Building | 24'x15'x10' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၁၁ | Store and Garage | 60'x30'x14',<br>50'x27'x14',<br>67'x24'x14' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၁၂ | Dryer with Gang Way | 330'x25'x10' | အမိုးပြားမိုး၊ အကာမဲ့ | ၇ |
| ၁၃ | New Store Godown | 100'x40'x11' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရီခင်း | ၁ |
| ၁၄ | အုတ်လှန်းအဆောက်အဦ | 120'x30'x10' | သွပ်မိုး၊ အကာမဲ့ | ၂ |
| ၁၅ | နံကာမီးဖိုအဆောက်အဦ | 90'x36'x16' | အမိုးပြားမိုး၊ အကာမဲ့ | ၂ |
| ၁၆ | အခြောက်လှန်းရုံအဆောက်အဦ | 90'x30'x8' | သွပ်မိုး၊ အကာမဲ့ | ၂ |
| ၁၇ | Dryer Shed | 90'x50'x14' | အမိုးပြားမိုး၊ အကာမဲ့ | ၁ |
| ၁၈ | Fire Brick Clay Preparation Shed | 90'x50'x14' | အုတ်ကြွပ်မိုး၊ အကာမဲ့ | ၁ |

| စဉ် | အမျိုးအမည် | အတိုင်းအတာ | အမျိုးအစား | အရေအတွက် |
|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ |
| ၁၉ | Fire Brick Machinery Shed | 63'x39'x17' | သွပ်မိုး၊ အကာမဲ့ | ၁ |
| ၂၀ | Dryer Shed | 90'x50'x14' | အုတ်ကြွပ်မိုး၊ အကာမဲ့ | ၁ |
| ၂၀ | Dryer Shed | 90'x50'x14' | အုတ်ကြွပ်မိုး၊ အကာမဲ့ | ၁ |
| ၂၂ | Recreation Centre | 71'x40'x23', 21'x26'x22', 32'x22'x22' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၂၃ | Motor Garage (2.Units) | 30'x18'x9' | သွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၂၄ | Motor Garage (4.Units) | 69'x17'x10' | သွပ်မိုး၊ အုတ်+သွပ်ကာ၊ ကွန်ကရိခင်း | ၁ |
| ၂၅ | Brick Crushing Plant Building | 48'x24'x10 | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၂၆ | Clay Shed | 60'x16'x11' | သွပ်မိုး၊ အကာမဲ့ | ၁ |
| ၂၇ | ကုလားဖိုအလုပ်ရုံခွဲအခြောက်လှန်းရုံ | 90'x40'x8' | သွပ်မိုး၊ အကာမဲ့ | ၁ |
| ၂၈ | ကုလားဖိုအလုပ်ရုံခွဲအခြောက်လှန်းရုံ | 80'x50'x13' | အမိုးပြားမိုး၊ အကာမဲ့ | ၁ |
| ၂၉ | Open Store Shed | 90'x40'x6' | Burdex မိုး၊ အကာမဲ့ | ၁ |
| ၃၀ | P.O.L Godown | 10'x9'x9' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃၁ | Dryers | 60'x36'x8' | အုတ်ကြွပ်မိုး၊ အကာမဲ့ | ၃ |
| ၃၂ | Diesel Oil Godown | 34'x21'x11' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃၃ | H.S.D Godown | 26'x9'x9' | သွပ်မိုး၊ သွပ်ကာ၊ ကွန်ကရိခင်း | ၁ |
| ၃၄ | Office Building | 66'x48'x9' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃၅ | ကုန်ထုတ်အထောက်အကူပြုဆ/ဋ | 126'x24'x12' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃၆ | Manager's Quarter | 40'x44'x23' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃၇ | Officer's Quarter | 53'x34'x23' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃၈ | Duplex Type Staff Quarter | 40'x24'x20' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၅ |
| ၃၉ | Mandalay Type Staff Quarter | 53'x24'x20' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁၀ |
| ၄၀ | Labour Barrack | 48'x33'x10' | သွပ်မိုး၊ ဝါးထရံကာ၊ ကွန်ကရိခင်း | ၁ |
| ၄၁ | Durwan House | 27'x19'x6' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၄၂ | Labour Quarter (2 Units) | 40'x20'x9' | သွပ်မိုး၊ ပျဉ်ကာ၊ ကွန်ကရိခင်း | ၃ |
| ၄၃ | Labour Quarter (6 Units) | 54'x37'x10' | အုတ်ကြွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၃ |
| ၄၄ | Labour Quarter (6 Units) | 54'x37'x10' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၄၅ | Labour Quarter (6 Units) | 54'x33'x10' | သွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၄၆ | Labour Quarter (2 Units) | 42'x30'x10' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၂ |
| ၄၇ | M.T Shed | 24'x20'x6' | အမိုးပြားမိုး၊ သွပ်+သံဇကာ ကာ ကွန်ကရိခင်း | ၁ |
| ၄၈ | Sanitary Ware Manufacturing Room | 45'x16'x6'-6" | အမိုးပြားမိုး၊ သွပ်+သံဇကာ ကာ ကွန်ကရိခင်း | ၁ |
| ၄၉ | Machinery Shed | 210'x15'x7' | ပလပ်စတစ်မိုး (သံထည်) အကာမဲ့ | ၁ |
| ၅၀ | Clay Shed | 20'x22'x18' | သွပ်မိုး၊ အကာမဲ့ | ၁ |

| စဉ် | အမျိုးအမည် | အတိုင်းအတာ | အမျိုးအစား | အရေအတွက် |
|---|---|---|---|---|
| ၀ | ၂ | ၃ | ၄ | ၅ |
| ၅၀ | Machinery Shed (P.W.C) | 70'x40'x6' | ပလပ်စတစ်မိုး (သံထည်) အကာမဲ့ | ၁ |
| ၅၂ | Clay Pulverzing Shed | 48'x18'x7' | အမိုးပြားမိုး၊ အကာမဲ့ | ၁ |
| ၅၃ | Machinery Shed | 270'x15'x7' | ပလပ်စတစ်မိုး (သံထည်) အကာမဲ့ | ၁ |
| ၅၄ | Machinery Shed | 230'x15'x7' | ပလပ်စတစ်မိုး (သံထည်) အကာမဲ့ | ၁ |
| ၅၅ | Okkalapa Model House | 54'x18'x10'-6" | အုတ်ကြွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၅၆ | Model Hut | 8'x7'x6' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| | အလုပ်ရုံခွဲ (၂) | | | |
| ၀ | Factory Building | 400'x120'x23'<br>140'x60'x23' | သွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၂ | Workshop | 48'x20'x11' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃ | Office Building | 66'x24'x11',<br>56'x24'x12',<br>37'x24'x12' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၄ | Office Building | 100'x30'x12'<br>30'x24'x12' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၅ | Office Building | 80'x25'x12' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၆ | Office Building | 90'x30'x12' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၇ | Time Keeper Office | 30'x20'x10' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၈ | ကြွေထည်မြေထည်နည်းပညာဖွံ့ဖြိုးရေးဓါတ်ခွဲခန်းဆ/ဌ | 81'x50'x13'-6" | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၉ | အုတ်ခြောက်လှန်းဂိုဒေါင်များ | 80'x30'x6' | သွပ်မိုး၊ အကာမဲ့ (သစ်+ဝါးဆ/ဌ) | ၂ |
| ၁၀ | ချော်ဖိုအဆောက်အဦ | 190'x50'x19'-6" | သွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၁၁ | Finish Goods Storage | 30'x20'x11' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၁၂ | Welfare | 36'x18'x12' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၁၃ | M.T Garage | 48'x24'x11' | သွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၁၄ | Pump House | 6'x6'x'6' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၁၅ | Pump House | 8'x5'x5' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၁၆ | Down Draugyt Kiln Shed | 30'x20'x12'-6" | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| | အလုပ်ရုံခွဲ (၃) | | | |
| ၁ | Factory Building | 400'x120'x23'<br>140'x60'x23' | သွပ်မိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း<br>အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၂ | Work Shop | 120'x40'x11' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၃ | Water Pump House | 15'x10'x8' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၄ | Delivery Office | 13'x12'ထ10' | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |
| ၅ | Store Godown | 100'x40'x14 | အမိုးပြားမိုး၊ အုတ်နံရံကာ၊ ကွန်ကရိခင်း | ၁ |

| စဉ် | အမျိုးအမည် | အတိုင်းအတာ | အမျိုးအစား | အရေအတွက် |
|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ |
| ၆ | Garage | 84'x40'x14' | သွပ်မိုး၊ အုတ်နံ့ရံကာ၊ သွပ်ကာ၊ ကွန်ကရစ်ခင်း | ၁ |
| ၇ | အုတ်ခြောက်လှန်းရုံ | 100'x30'x6' | သွပ်မိုး၊ အကာမဲ့၊ (ဝါး ဆ/ဥ) | ၁ |
| ၈ | Clay Shed | 30'x15'x10' | အမိုးပြားမိုး | ၁ |
| ၉ | Clay Shed | 30'x30'x10' | သွပ်မိုး၊ အကာမဲ့ | ၂ |

အုတ်ထုတ်လုပ်ရေးအလုပ်ရုံရှိ ပုံသေပိုင်ပစ္စည်းစာရင်း (Assetss) စာရင်း
စက်ပစ္စည်းကိရိယာများ

| စဉ် | အမျိုးအစား | အရေအတွက် | မှတ်ချက် |
|---|---|---|---|
| ၁ | Box Feeder | 6 Nos | 3 Nos ပျက်/ပြင်သုံး၊ 3 Nos ပျက် |
| ၂ | Wet Grunding Pan | 3 Nos | ပျက်/ပြင်သုံး |
| ၃ | Conveyor (4 Lines/set) | 3 Set | ပျက်/ပြင်သုံး |
| ၄ | Extrusion Machine | 4 Nos | 3 Nos ပျက်/ပြင်သုံး၊ 1 No ပျက် |
| ၅ | Automatic Cutter | 3 Nos | ပျက်/ပြင်သုံး |
| ၆ | Hoffmann Kiln | 2 Nos | ပြင်ဆင်သုံး |
| ၇ | Tunnel Kiln | 4 Nos | ပြင်ဆင်သုံး |
| ၈ | Tunnel Dryer | 4 Nos | ပြင်ဆင်သုံး |
| ၉ | Kiln Car (ခွဲ (၂) 178 + ခွဲ (၃) 164) | 342 Nos | ပျက်/ပြင်သုံး |
| ၁၀ | Transfer Car | 6 Nos | ပြုပြင်သုံး |
| ၁၁ | Mobile Plant | 1 Set | ပြုပြင်သုံး |
| ၁၂ | Electrical Equipment | 3 Lots | လဲလယ်သုံး |
| ၁၃ | Generator (200 KVA & 750 KVA) | 2 Nos | 750 KVA ပြုပြင်ရန် လိုအပ်<br>200 KVA ပျက် |
| ၁၄ | Tools & Equipment | 1 Lot | ပြုပြင်သုံး |
| ၁၅ | Other | | |
| | - Roofing Tile Making Machine | 1 Set | ပျက် (သံပုံအဆင့်) |
| | - Multibucket Elevator 57-58 | 1 No | ပျက် (သံပုံအဆင့်) |
| | - Concrete Needle | 1 No | ပျက် (သံပုံအဆင့်) |
| | - Friction Press 60-61 | 1 No | ပျက် (သံပုံအဆင့်) |
| | - Pug Mill 60-61 | 1 No | ပျက် (သံပုံအဆင့်) |
| | - Glazed 64-65 | 1 No | ပျက် (သံပုံအဆင့်) |
| | - Sewerage Pipe Machine 65-66 | 1 No | ပျက် (သံပုံအဆင့်) |
| | - Pallet Shop 57-58 | 1 | ပျက် (သံပုံအဆင့်) |
| | - Concrete Mixer 57-58 | 1 | ပျက် (သံပုံအဆင့်) |
| | - Centrifugal Pumping Unit 57-58 | 1 | ပျက် (သံပုံအဆင့်) |
| | - Brick Crushing Plant 57-58 | 1 | ပျက် (သံပုံအဆင့်) |
| | - Hylo Burner 57-58 | 1 | ပျက် (သံပုံအဆင့်) |
| | - Fire Brick Machinery 64-65 | 1 | ပျက် (သံပုံအဆင့်) |
| | - Laboratory Equipment | 1 | ပျက် |
| | - Workshop | 1 | ပြုပြင်သုံး |
| | - Universal Lathe Machine Hoffmann Kiln 01-02 | 1 No | ပြုပြင်သုံးစွဲနိုင်ပါသည်။ |
| | - Electric Transfer Car | 1 No | ပြုပြင်သုံး |

| စဉ် | အမျိုးအစား | အရေအတွက် | မှတ်ချက် |
|---|---|---|---|
| | - Push Car | 19 Nos | မြုပြင်သုံး |
| | - Extrusion Machine 01-02 | 1 No | မြုပြင်သုံး |
| | - Extrusion Machine 01-02 | 1 No | မြုပြင်သုံး |
| | - 7 KVA Generator | 1 No | မြုပြင်သုံး |
| | - MS Sheet (2) sht: | 2 Shts | ကောင်း |
| | - စက်နှင့်စက်ပစ္စည်းကိရိယာများ | 1 No | မြုပြင်သုံးစွဲနိုင်ပါသည်။ |
| | - သံဂဟေဆော်စက် | 1 No | ပျက် |
| | - ကူဘိုတာ 5^6 | 1 No | ပျက် |
| | - မော်တာ (22.07)KW | 1 No | ပျက် |
| | - အုတ်ညှစ်စက် ဒီဇယ်အင်ဂျင် | 1 No | ပျက် |
| | - မြေညှစ်စည် | 1 No | မြုပြင်သုံး |
| | - မော်တာ (10.2)KW | 1 No | ပျက် |
| | - အုတ်ညှစ်စက် | 3 Nos | ပျက် |
| | - Potable Belt Conveyor | 1 No | မြုပြင်သုံး |
| | - Parts & Machinery | 1 No | မြုပြင်သုံး |
| | - 1 Beam | 63 Fts | ကောင်း |
| | - Gear Box | 1 No | ပျက် |
| | - Mould Case Runner | 1 No | ပျက် |
| | - Steel Mould Runner | 1 No | ပျက် |
| | - M.S Mould Runner | 1 No | ပျက် |
| | - Moder Block Mould 9"x9"x2 1/2" | 1 No | ပျက် |
| | - Rail Track | 1 No | ပျက် |
| | - 54" x 10" Mould Case Runner | 1 No | ပျက် |
| | - 7/5 $Ft^3$ Mixer Drum with Gear & Pulley | 1 No | ပျက် |
| | - 14/10 Cu-Ft Concrete Mixer with 2 Bearing | 2 Nos | ပျက် |
| | - Other Fixed Asset: (CPP2) | - | ပျက် |
| | - 14/10 Cu-Ft - Concrete Mixer with 2 Bearing | 1 No | ပျက် |
| | - Wooden Pallet | 1 No | ပျက် |
| | - မြို့မရွာသဘော်ဆယ်တင်ရေးပစ္စည်း | 1 No | မြုပြင်သုံး |
| | - Kiln Car Wheel | 50 Nos | ကောင်း |
| | - Kiln Car Wheel & Cap | 36 Nos | ကောင်း |
| | - 250 KVA Generator | 1 No | မြုပြင်သုံး |
| | - Accessories for Perking Engine | 1 No | မြုပြင်သုံး |
| | - 4" Ø ERW Line Pipe L-5.8 Meter 10 Nos | 1 No | ကောင်း |
| | - 4" Ø ERW Line Pipe L-5.8 Meter 50 Nos | 1 No | ကောင်း |
| | - 4" Ø ERW Line Pipe L-5.8 Meter 120Nos | 1 No | ကောင်း |
| | - Generator (275 KVA) 03-04 | 1 No | မြုပြင်သုံး |

အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း
အုတ်ထုတ်လုပ်ရေးအလုပ်ရုံ

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| | <u>မော်တော်ယာဉ်နှင့် ယာဉ်၊ ယန္တရား</u> | | | |
| ၁ | Nissan Dumper (၅ခ/၄၀၂၇) | | | |
| ၂ | UD Dumper (၅ခ/၆၀၈၆) | စီး | ၁ | ပြုပြင်သုံး |
| ၃ | Mazda Jeep (ဇ/၆၈၈၁) | ။ | ၁ | ပြုပြင်သုံး |
| ၄ | Mazda E-2000 (ဈ/၉၀၄၀) | ။ | ၁ | ပြုပြင်သုံး |
| ၅ | Mazda B-600 (ဇ/၉၁၅၅) | ။ | ၁ | ပြုပြင်သုံး |
| ၆ | Mazda B-360 (ဆ/၉၆၃၁) | ။ | ၁ | ပြုပြင်သုံး |
| ၇ | Mitsubishi Jeep (ဆ/၉၆၃၂) | ။ | ၁ | ပြုပြင်သုံး |
| ၈ | Mazda D-1500 (ဆ/၆၀) | ။ | ၁ | ပြုပြင်သုံး |
| ၉ | Mazda D-1500 (ဆ/၆၁) | ။ | ၁ | ပြုပြင်သုံး |
| ၁၀ | Mazda E-2000 (ဇ/၇၃၃၁) | ။ | ၁ | ပြုပြင်သုံး |
| ၁၁ | TE-21 Dump Truck (၅ခ/၃၆၀၅) | ။ | ၁ | ပြုပြင်သုံး |
| ၁၂ | TE-21 Dump Truck (၉ခ/၆၈၉၁) | ။ | ၁ | ပျက် (သံပုံ) |
| ၁၃ | TE-21 Dump Truck (၇ခ/၄၀၈၇) | ။ | ၁ | ပြုပြင်သုံး |
| ၁၄ | TE-21 Dump Truck (န/၁၆၉၈) | ။ | ၁ | ပြုပြင်သုံး |
| ၁၅ | TE-21 Dump Truck (ဏ/၇၀၃၉) | ။ | ၁ | ပြုပြင်သုံး |
| ၁၆ | TE-11 Bowser (ဇ/၁၁၆၉) | ။ | ၁ | ပျက် (သံပုံ) |
| ၁၇ | TE-11 Bowser (ဈ/၆၀၀၇) | ။ | ၁ | ပျက် (သံပုံ) |
| ၁၈ | ISUZU DUMPER (ဆ/၅၂၃၉) | ။ | ၁ | ကောင်း |
| ၁၉ | ISUZU DUMPER (ဆ/၆၉၀၂) | ။ | ၁ | ပျက် |
| ၂၀ | TE-11 DUMPER (ဈ/၄၉၁၄) | ။ | ၁ | ပျက် |
| ၂၁ | TE-11 DUMPER (ဈ/၄၉၁၆) | ။ | ၁ | ပျက် |
| ၂၂ | TE-11 DUMPER (ဈ/၇၆၅၁) | ။ | ၁ | ပျက် (သံပုံ) |
| ၂၃ | TE-11 DUMPER (ဈ/၇၆၅၂) | ။ | ၁ | ပျက် (သံပုံ) |
| ၂၄ | TE-11 DUMPER (ဈ/၈၈၃၉) | ။ | ၁ | ပျက် (သံပုံ) |
| ၂၅ | TE-11 DUMPER (ည/၃၅၉၃) | ။ | ၁ | ပျက် (သံပုံ) |
| ၂၆ | TE-11 DUMPER (ည/၇၇၉၅) | ။ | ၁ | ပျက် (သံပုံ) |
| ၂၇ | TE-11 DUMPER (ည/၇၇၉၆) | ။ | ၁ | ပျက် (သံပုံ) |
| ၂၈ | TE-11 DUMPER (ဈ/၂၉၂၇) | ။ | ၁ | ပျက် (သံပုံ) |
| ၂၉ | TE-21 DUMPER (ပ/၄၀၅၉) | ။ | ၁ | ပျက် (သံပုံ) |
| ၃၀ | TE-21 DUMPER (ပ/၉၇၄၇) | ။ | ၁ | ပြုပြင်သုံး |
| | | စီး | ၁ | ပြုပြင်သုံး |

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | မှတ်ချက် |
|---|---|---|---|---|
| ၃၀ | TE-21 DUMPER (ဒ/၃၈၁၁) | ။ | ၁ | ပြုပြင်သုံး |
| ၃၂ | Nissan Dumper (၂ခ/၃၂၄၅) | ။ | ၁ | ပြုပြင်သုံး |
| ၃၃ | Hino Ranger (၃ခ/၂၅၆၆) | ။ | ၁ | ပြုပြင်သုံး |
| ၃၄ | Hino Ranger (ဇ/၄၀၅) | ။ | ၁ | ပြုပြင်သုံး |
| ၃၅ | Hino Ranger (ည/၁၆၆) | ။ | ၁ | ပြုပြင်သုံး |
| ၃၆ | Hino Truck (ဘ/၇၈၆၉) | ။ | ၁ | ပြုပြင်သုံး |
| ၃၇ | Muir Hill Dumper | ။ | ၂ | Muri Hill Dumper ယာဥ် (၂)စီးသည် သံတိုသံစအစိတ်အပိုင်း အဖြစ်သာကျန်ရှိတော့ပါသည်။ |
| ၃၈ | Kobelco SK 200-3 Excavator | စီး | ၁ | ပြုပြင်သုံး |
| ၃၉ | MI (2) Excavator | ။ | ၁ | ကောင်း |
| ၄၀ | Kabelco K907C Excavator | ။ | ၁ | ပြုပြင်သုံး |
| ၄၁ | Caterpillar 315 Excavator | ။ | ၁ | သင့် |
| ၄၂ | Komatsu D65 A8 Bulldozer | ။ | ၁ | ကောင်း |
| ၄၃ | Wheel Loader TCM L 20-3 | ။ | ၁ | ကောင်း |
| ၄၄ | Trawller gi (အုတ်-၁) | ။ | ၅ | သင့် |
| ၄၅ | Trawller gi (အုတ်-၃) | ။ | ၅ | ပျက် |

နောက်ဆက်တွဲ (င)

# အုတ်ကျက်တစ်လုံး၏ စံချိန်စံညွှန်း
# ရုပ်ဂုဏ်သတ္တိ

| | | |
|---|---|---|
| ၁ အလေးချိန် (ကီလိုဂရမ်) | - | ၂.၂၆ ± ၀.၁ |
| ၂။ အရွယ်အစား (မီလီမီတာ) | - | ၂၂၀ x ၁၀၀ x ၇၅ ± ၂% |
| ၃။ ဒိုင်သီး (မီလီမီတာ) | - | ၂.၅၄ + ၀.၀၀ <br> - ၀.၈၀ |
| ၄။ ရေစုပ်နှုန်း(%) | - | ၁၆% ထက်မပိုရ |
| ၅။ ဖိနှိပ်ခံနိုင်အား ကီလိုဂရမ်/စင်တီမီတာ | | ၁၀၅ အနည်းဆုံးရှိရမည်။ |

ဆောင်ရွက်ပြီးမှ ငှားရမ်းခရယူသည့်သဘောဖြစ်နေ၍ ဌာနမှစဉ်းစားသင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)တွင်မပါရှိသော ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း၊ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ၊ စာချုပ်အား ပြန်လည်ညှိနှိုင်းခြင်းများကို မင်နီဖြင့် ရေးသားပေးလိုက်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)၌ မြေငှားစာချုပ်များတွင် ရယူလေ့ရှိသော မြေ အသုံးချမှု ပရီမီယံ (Land Use Premium)ရယူထားခြင်းမရှိကြောင်းတွေ့ရှိရပါသည်။ ၃၀-၉-၂၀၁၁ နေ့စွဲပါ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရအဖွဲ့၊ အမိန့်ကြော်ငြာစာအမှတ် ၃၉/၂၀၁၁ ၏ အပိုဒ် ၁၇ အရ မြေငှားခ ပရီမီယံကြေးကို သက်ဆိုင်ရာဌာနက ရင်းနှီးမြှုပ်နှံသူထံမှတောင်းခံရန် ညွှန်ကြားထားကြောင်း သိရှိလိုက်နာနိုင်ပါရန် ဖော်ပြအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် ၁၂(ဏ)တွင် ကုန်အမှတ်တံဆိပ်ဆက်လက်အသုံးပြုပါက အရည်အသွေးကျဆင်းမှုမရှိစေရန် စံချိန်စံညွှန်းနှင့်အညီ ထုတ်လုပ်ရမည်ဟု ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)တွင် စံချိန်စံညွှန်းနှင့်စပ်လျဉ်း၍ သတ်မှတ်ထားသော စည်းကမ်းချက်များမပါရှိသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၁၄ တွင် စာချုပ်သက်တမ်းတိုးခြင်းတွင် စက်ရုံငှားရမ်းရေးစာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် နောက်ထပ်ငှားရမ်းလိုသည့်ကာလ၊ သက်တမ်းမည်မျှထိတိုးနိုင်ကြောင်း၊ တစ်ကြိမ်လျှင်နှစ်မည်မျှဖြင့် အကြိမ်မည်မျှ တိုးနိုင်ကြောင်းမပါရှိသဖြင့် စာချုပ်ဝင်နှစ်ဖက်ညှိနှိုင်းပြီး ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)တွင် ရင်းနှီးမြှုပ်နှံမှုပမာဏဖော်ပြထားခြင်းမရှိ၍ ဌာန၏ လုပ်ငန်းလိုအပ်ချက်နှင့်အညီ ဖော်ပြရန်သင့် မသင့် စိစစ်ရန်လိုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)တွင် လုပ်ငန်းအာမခံရယူခြင်းနှင့်စပ်လျဉ်း၍ စာပိုဒ်အား ဖော်ပြထားခြင်းမရှိကြောင်းတွေ့ရှိရပါသည်။ သို့ပါ၍ လုပ်ငန်းအာမခံရယူရန် သင့် မသင့် ဌာနအနေဖြင့် စဉ်းစားသင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၂၀ စာချုပ်အတည်ဖြစ်ခြင်းစာပိုဒ်တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ရယူရန် ဖော်ပြထားခြင်းမရှိကြောင်း တွေ့ရှိရသဖြင့် ဌာနအနေဖြင့် ပြန်လည်စိစစ်ရန် လိုအပ်ပါသည်၊

(ဎ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ရေးသား ပေးလိုက်ပါသည်။

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ တံဆိပ်ခေါင်းခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် တံဆိပ်ခေါင်းအက်ဥပဒေအရ ကျသင့်သောတံဆိပ်ခေါင်းခွန်ကို မြေ အငှားချထားခြင်းခံရသူက ထမ်းဆောင်ရမည်ဖြစ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းရန် အကြံပြုပါသည်။

၅။ Mother Trading Co., Ltd သည် ဥပဒေအရတရား ဝင်ဖွဲ့စည်းထားသည့် ကုမ္ပဏီ ဟုတ်၊ မဟုတ် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ၊ မရှိ ငွေကြေးအင်အား ပြည့်စုံမှုရှိ၊ မရှိ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင် လွှဲအပ်ခြင်း ခံရသူဟုတ်၊ မဟုတ် စသည်တို့ကို ကြိုတင် စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ (၃) စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၁၀.၈.၁၂

ညွှန်ကြားရေးမှူးချုပ် ( ကိုယ်စား )
( ခင်မောင်ဦး၊ ညွှန်ကြားရေးမှူး )

| | | |
|---|---|---|
| [illegible]ကြားရေးမှူး | | |
| [illegible]ကြီး[illegible]ရေးမှူး | | |
| ညွှန်ကြားရေးမှူး | | |
| ဦး[illegible]ထံတင်ပြပေးပါရန် | | |

ဦးဆောင်ညွှန်ကြားရေးမှူး
အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

၅၀၉၁
၂၁၊ ၁၀၊ ၁၂

စာအမှတ်၊ ၂ / ၃ - ၁၃ (၆) / စီးပွား
ရက် စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ အပေါ့စားသဲကွန်ကရစ်အုတ်နှင့်ဖိအားမြင့်ခံသဲကွန်ကရစ်အုတ် ထုတ်လုပ်မည့် စက်ရုံ တည်ဆောက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ

၁။ စက်မှုဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး၏လမ်းညွှန်ချက်အရ သမရိုးကျမီးဖုတ်၍ထုတ်လုပ်သည့် မြေအုတ်များနေရာတွင်အစားထိုးဆောင်ရွက်ရန်အတွက် ပေါ့ပါးခိုင်ခန့်ပြီးနိုင်ငံတကာအဆင့်မီသည့် သဲ၊ ဘိလပ်မြေ၊ ထုံးအခြေခံကုန်ကြမ်းများဖြင့်ထုတ်လုပ်သော အပေါ့စားသဲကွန်ကရစ်အုတ်(AAC အုတ်)နှင့် ဖိအားမြင့်ခံသဲကွန်ကရစ်အုတ်(APC အုတ်)ထုတ်လုပ်မည့် စက်ရုံ(၃)ရုံကို အင်းစိန်မြို့နယ်၊ တညင်းကုန်းရှိ စက်မှုဝန်ကြီးဌာန၊ အကြီးစားအုတ်စက်ရုံ၊ အလုပ်ရုံခွဲ(၃)အနီးရှိ မြေဧရိယာ(၉. ၅)ဧကတွင် မြေငှားရမ်း တည်ဆောက်မည်ဖြစ်ကြောင်း၊ အဆိုပါမြေကို အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်းနှင့်မြေငှားရမ်း သဘောတူ စာချုပ်ချုပ်ဆိုပြီးဖြစ်ကြောင်း၊ သို့ဖြစ်ပါ၍ ၎င်းစက်ရုံတည်ဆောက်ခြင်းအားခွင့်ပြုပေးနိုင်ပါရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ထောက်ခံပေးနိုင်ပါရန် MOTHER INDUSTRIAL Co.,Ltd က တင်ပြလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ၁၁-၁၀-၂၀၁၂ ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၉/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၇)အရ ကန့်ကွက်ရန် မရှိကြောင်း တင်ပြအပ်ပါသည်။

(မြင့်ဆွေ)
ဝန်ကြီးချုပ်

၂၂/၁၀

၂၂/၁၀/၁၂

မိတ္တူ

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
အင်းစိန်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
MOTHER INDUSTRIAL Co.,Ltd
လက်ခံစာတွဲ/မျှောစာတွဲ

# MOTHER INDUSTRIAL CO., LTD.

**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

MOTHER INDUSTRIAL CO., LTD.
No ..........
Date ..........
YANGON

သို့

ဥက္ကဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်။

နေ့စွဲ။ ၂၀၁၂ခုနှစ်၊ ဒီဇင်ဘာလ၊(၂၈)ရက်။

အကြောင်းအရာ။ <u>ဝန်ခံချက်</u>။

အပေါ့စားသဲကွန်ကရစ်အုတ် (AAC) နှင့် ဖိအားမြင့်ခံသဲကွန်ကရစ်အုတ် (APC) စက်ရုံများတည်ဆောက်မည့် ကျွန်တော်များ Mother Industrial Co., Ltd သည် ပြည်ထောင်စုမြန်မာနိုင်ငံသားပိုင် ကုမ္ပဏီ ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မြတ်

(အုပ်ချုပ်မှု ဒါရိုက်တာ)

**MOTHER INDUSTRIAL CO.,LTD**

**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@

စက်မှုဝန်ကြီးဌာန

အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း
စာအမှတ်
ရက်စွဲ
No.(3) Heavy Industries Enterprise

နှင့်

MOTHER INDUSTRIAL CO., LTD.
No.
Date
YANGON

# MOTHER INDUSTRIAL CO., LTD.

တို့၏

# အမှတ် (၃၄)အကြီးစားစက်ရုံ (သာယာဝတီ)လက်အောက်ခံ အုတ်ထုတ်လုပ်ရေးအလုပ်ရုံငှားရမ်းသည့် သဘောတူစာချုပ်

(မူကြမ်း)

ရက်စွဲ ၂၀၁၂ခုနှစ်၊ ဩဂုတ်လ (၂၄)ရက်

စက်မှုဝန်ကြီးဌာန

အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း

နှင့်

MOTHER INDUSTRIAL CO., LTD.

တို့၏

# အမှတ် (၃၄)အကြီးစားစက်ရုံ (သာယာဝတီ)လက်အောက်ခံ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ အား ငှားရမ်းသည့်သဘောတူစာချုပ်

ဤငှားရမ်းခြင်းစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ နေပြည်တော်တွင် ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ (၂၄)ရက်နေ့တွင် ဦးဇော်ဟိန်း၊ ဦးဆောင်ညွှန်ကြားရေးမှူးကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ စက်မှုဝန်ကြီးဌာနလက်အောက်ရှိ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံ တည်ဆဲဥပဒေများ အရ ဖွဲ့စည်းထားသည့် "အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း" က တစ်ဖက် (ဤမှနောင်တွင် "အငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်း မရှိပါက ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရခွင့်ပြုထား သော လွှဲအပ်ခြင်း ခံရသူများပါဝင်သည်) ကတစ်ဖက်

နှင့်

မန်နေဂျင်းဒါရိုက်တာ ဦးအောင်မြတ်၊ နိုင်ငံသား စိစစ်ရေးကဒ် ၁၂/ဥကတ (နိုင်)၀၂၃၀၃၉ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသည့် Mother Industrial Co., Ltd. ရန်ကုန်မြို့၊ လမ်းမတော်မြို့နယ်၊ (၂)လမ်း၊ (၁)ရပ်ကွက်၊ အမှတ် (၄၄/၄၆) (ဤမှနောင်တွင် "အငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ယင်းစကားရပ်တွင် စာသား ~~အရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏~~ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ဥပဒေအရ ခွင့်ပြုထားသော လွှဲအပ်ခြင်းခံရသူများပါဝင် သည်ဟု မှတ်ယူရမည်။) က အခြား တစ်ဖက်တို့သည် အောက်ပါအတိုင်း ချုပ်ဆိုကြပါသည်-

## အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

၁။ "အငှားချထားသူ" သည် နောက်ဆက်တွဲတွင် အသေးစိတ်ဖော်ပြထားသော စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ပိုင်ဆိုင်သူဖြစ်ပြီး "အငှားချထားခြင်းခံရသူ" သည်စာချုပ်ကို

အကောင်အထည် ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါ လုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီးအာမခံကြပါသည်။

**အငှားချထားမည့်ပစ္စည်းများ**

၂။ 'အငှားချထားခြင်းခံရသူ'သည် အောက်ပါ 'အငှားချထားသူ' ပိုင်စက်ရုံမြေ၊ အဆောက်အဦနှင့် စက်ပစ္စည်းများကို ငှားရမ်း၍ အုတ်ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်းများဆောင်ရွက်မည်ဖြစ်ပါသည် -

| | | | |
|---|---|---|---|
| (က) | စက်ရုံအမည်နှင့် တည်နေရာ | - | အမှတ် (၃၄)အကြီးစားစက်ရုံ (သာယာဝတီ) လက်အောက်ခံ အုတ်ထုတ်လုပ်ရေးအလုပ်ရုံ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ တညင်းကုန်းရပ်ကွက် |
| (ခ ) | စက်ရုံမြေ | - | ၂၃၇. ၆၂၉ ဧက |
| (ဂ) | အဆောက်အဦ | - | နောက်ဆက်တွဲ (က) |
| (ဃ) | စက်ပစ္စည်းကိရိယာများ | - | နောက်ဆက်တွဲ (ခ ) |
| (င) | ရုံးသုံးပရိဘောဂများ | - | နောက်ဆက်တွဲ (ဂ) |
| (စ) | အခြားပစ္စည်းများ | - | နောက်ဆက်တွဲ (ဃ) |
| (ဆ) | တည်နေရာပြပုံ | - | နောက်ဆက်တွဲ ( စ) |

**ငှားရမ်းမည့်အချိန်ကာလ**

၃။ ငှားရမ်းမည့်အချိန်ကာလမှာ ၂၀၁၂ခုနှစ်၊ စက်တင်ဘာလ (၁)ရက်နေ့ မှ ၂၀၂၇ ခုနှစ်၊ ဩဂုတ်လ (၃၁)ရက်နေ့အထိ (၁၅)နှစ်ကာလ ဖြစ်ပါသည်။

**စာချုပ်သက်တမ်း**

၄။ ၂၀၁၂ ခုနှစ် စက်တင်ဘာလ (၁)ရက်နေ့မှ ၂၀၂၇ခုနှစ် ဩဂုတ်လ (၃၁)ရက်နေ့အထိ (၁၅)နှစ် ဖြစ်ပါသည်။

**လွှဲပြောင်းပေးမည့်ဝန်ထမ်းများ**

၅။ လွှဲပြောင်းပေးမည့်ဝန်ထမ်းအင်အားမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | လစာနှုန်း | ဦးရေ |
|---|---|---|
| (က) | ၁၆၀၀၀၀-၂၀၀၀- ၁၇၀၀၀၀ | ၁ |
| (ခ ) | ၁၄၀၀၀၀-၂၀၀၀- ၁၅၀၀၀၀ | ၂ |

| | | |
|---|---|---|
| (ဂ) | ၁၂၀၀၀၀ိ- ၂၀၀၀ိ- ၁၃၀၀၀၀ိ | ၅ |
| (ဃ) | ၁၀၀၀၀၀ိ- ၂၀၀၀ိ- ၁၁၀၀၀၀ိ | ၂၆ |
| (င) | ၆၅၀၀၀ိ - ၁၀၀၀ိ - ၇၀၀၀၀ိ | ၁၆ |
| (စ) | ၅၉၀၀၀ိ-၁၀၀၀ိ- ၆၄၀၀၀ိ | ၂၈ |
| (ဆ) | ၅၃၀၀၀ိ-၁၀၀၀ိ- ၅၈၀၀၀ိ | ၁၂၀ |
| (ဇ) | ၄၇၀၀၀ိ-၁၀၀၀ိ- ၅၂၀၀၀ိ | ၁၅၉ |
| (ဈ) | ၄၁၀၀၀ိ-၁၀၀၀ိ- ၄၆၀၀၀ိ | ၂၃ |
| (ည) | ၃၅၀၀၀ိ-၁၀၀၀ိ- ၄၀၀၀၀ိ | ၆ |
| (ဋ) | နေ့စား | ၂၅ |
| | **စုစုပေါင်း** | ၄၁၁ |

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၆။ လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့် ပတ်သက်၍ အောက်ပါ စည်းကမ်းချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရမည် -

(က) စက်ရုံရှိလွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို လစဉ် လစာထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းတစ်စုံတစ်ရာကြောင့် လစာနှုန်းထားများ ပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့် နှုန်းထားအတိုင်း ထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့်လစာနှင့် နှစ်တိုးကို ခံစားခွင့်ပြုရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဆက်လက်တာဝန်ပေးအပ်ရမည်။

(င) ဝန်ထမ်းများ၏ လစာ၊ နှစ်တိုး၊ စရိတ်များအား နိုင်ငံတော်၏ခွင့်ပြုနှုန်းထားများအတိုင်း "အငှားချထားခြင်းခံရသူ" မှ ဆက်လက်ပေးဆောင်ရမည်။မူရင်းလစာအား နိုင်ငံတော် သတ်မှတ်နှုန်းထားထက် ပို၍မပေးရ။ဆုကြေးနှင့်စရိတ်များအား "အငှားချထားခြင်းခံရသူ" မှ သင့်လျော်သလိုပေးနိုင်သည်။ ဝန်ထမ်းလစာစရိတ်ကို "အငှားချထားခြင်းခံရသူ" မှ ကျခံမည်ဖြစ်ပြီး၊ အငှားချထားရာတွင် လွှဲပြောင်းတာဝန်ထမ်းဆောင်သော ဝန်ထမ်းများ၏ ပင်စင်ထည့်ဝင်ငွေကိုလည်း "အငှားချထားခြင်းခံရသူ"မှ ကျခံပါမည်။

(စ) ဝန်ထမ်းများ ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်းကိစ္စရပ်များအား "အငှားချထားသူ" ၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ဆ) ဝန်ထမ်းများ ရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များ

အား နိုင်ငံတော်မှသတ်မှတ်ထားသည့် ဝန်ထမ်းစည်းမျဉ်းများနှင့်အညီ နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဝန်ထမ်းများနစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

(ဈ) လက်ရှိပင်စင်ခံစားလျှက်ရှိသော ဝန်ထမ်းများ၏ ပင်စင်အား ပေးရန်မလိုသော်လည်း ဆက်လက်လွှဲပြောင်းတာဝန်ထမ်းဆောင်မည့် ဝန်ထမ်းများ၏ ပင်စင်ထည့်ဝင်ငွေနှင့် လူမှုဖူလုံရေးကြေး (အလုပ်ရှင်)အား လစဉ် ပုံမှန်ထည့်ဝင်ပေးရမည်။

(ည) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသော ဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊ နှစ်ပြည့်(သို့မဟုတ်)သက်ပြည့် အငြိမ်းစားယူခြင်းများရှိပါက "အငှားချထားသူ" ထံ တင်ပြရမည်။

(ဋ) စက်ရုံဝန်ထမ်းအား အငှားချထားသည့်စက်ရုံနှင့်ပတ်သက်သည့် လုပ်ငန်းတာဝန်ကို သာပေးအပ်ရမည်။

(ဌ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူရမည်။

(ဍ) ဝန်ထမ်းများ၏သက်သာချောင်ချိရေးကိစ္စများကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူ ရမည်။

(ဎ) ဝန်ထမ်းများ ရာထူးအနွယ်(Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန် အချိန်ကျရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စများကို "အငှားချထားသူ" မှ ဆောင် ရွက်ရမည်။

(ဏ) ဝန်ထမ်းများ အလုပ်ခွင်တွင် မတော်တဆထိခိုက်မှု ဖြစ်ပွါးပါက "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(တ) ဝန်ထမ်းရေးရာကိစ္စများနှင့်ပတ်သက်၍ ညှိနှိုင်းဆုံးဖြတ်ရမည့်ကိစ္စရပ်များအား တည် ဆဲအလုပ်သမား အက်ဥပဒေအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(ထ) ဝန်ထမ်းရေးရာကိစ္စများနှင့်ပတ်သက်၍ အမှတ် (၃)အကြီးစားစက်မှုလုပ်ငန်း၊ ဦးဆောင် ညွှန်ကြားရေးမှူး၊ ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင် ရွက်ရမည်။

**ငှားရမ်းခနှုန်းထား**

၇။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၂)ပါ စက်ရုံ၊ မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးကိရိယာများ၊ အခြားပစ္စည်းများအတွက် တစ်နှစ်လျှင်ကျပ် (၂၁၂. ၃၇၈)သန်း (ကျပ်နှစ်ရာတစ်ဆယ့် နှစ်သန်းသုံးသိန်းခုနှစ်သောင်းရှစ်ထောင်တိတိ) ဖြစ်သည်။

၈။ ငှားရမ်းခအား တစ်နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်ပြီး နှစ်ဦးသဘောတူညီနိုင်းပြင်ဆင်ခြင်းအား စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီသို့ တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်သည်။

**ဘဏ်အာမခံ (Bank Guarantee) ပေးသွင်းခြင်း**

၉။ "အငှားချထားခြင်းခံရသူ"သည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်လအတွင်း ငှားရမ်းခငွေ၏ (၁၀%)နှင့် ညီမျှသော (Bank Guarantee) ကျပ် (၂၁.၂၄)သန်း (ကျပ်နှစ်ဆယ့်တစ်သန်းနှစ်သိန်းလေးသောင်းတိတိ)ကို မြန်မာ့စီးပွားရေးဘဏ်မှ (Payment Order Cheque) ဖြင့် အမှတ် (၃)အကြီးစား စက်မှုလုပ်ငန်းဘဏ္ဍာရေးဌာနသို့ ပေးသွင်းထားရမည်။

၁၀။ "အငှားချထားခြင်းခံရသူ"မှ စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက ဘဏ်အာမခံ (Bank Guarantee) ကို "အငှားချထားသူ" မှ သိမ်းယူမည်ဖြစ်ပြီး ကုမ္ပဏီအား (Black List) အမည်ပျက်စာရင်း ပေးသွင်းခြင်းခံရမည်။

**ဘဏ်အာမခံ (Bank Guarantee) သက်တမ်း**

၁၁။ "အငှားချထားခြင်းခံရသူ" မှ ပေးသွင်းထားသည့် (Bank Guarantee) ၏ သက်တမ်းသည် တစ်နှစ်ဖြစ်ပြီး "အငှားချထားခြင်းခံရသူ" မှ (၁)နှစ် တစ်ကြိမ် (Bank Guarantee) အား ပြန်လည်တင်သွင်းရမည်။

**ငှားရမ်းခပေးချေခြင်း**

၁၂။ အငှားချထားခြင်းခံရသူသည် (၃)လအတွက် ငှားရမ်းခကျသင့်ငွေ ကျပ် (၅၃.၀၉၅)သန်း (ကျပ်ငါးဆယ့်သုံးသန်းကိုးသောင်းငါးထောင်တိတိ) ကို (၃)လတစ်ကြိမ် (၃)လပြည့်သည့် လ၏ နောက်ဆုံးပတ်အတွင်း ပေးသွင်းရမည်။

၁၃။ ငှားရမ်းခပေးသွင်းရန်နောက်ကျပါက ရက်သတ္တပါတ်၊ တစ်ပါတ်နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် (၃)လအတွက် ငှားရမ်းခ၏ (၀.၅%) "အငှားချထားခြင်းခံရသူ" မှ ပေးသွင်းရမည်။ ရက်လွန်ကြေး သည် စုစုပေါင်း (၂.၅%)ထက်မပိုစေရ။

၁၄။ "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"သည် လိုအပ်ပါက (၃)လလျှင်တစ်ကြိမ် လုပ်ငန်းဆောင်ရွက်မှုအခြေအနေများအား ပြန်လည်သုံးသပ်၍ ငှားရမ်းခပေးချေမည့် အစီအစဉ်အား စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ၏ ဆုံးဖြတ်မှုဖြင့် ပြန်လည်ပြင်ဆင်ဆောင်ရွက်နိုင်သည်။

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ**

၁၅။ 'အငှားချထားခြင်းခံရသူ' ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံသုံးကိရိယာများနှင့်

အခြားပရိဘောဂများကို နောက်ဆက်တွဲပါအတိုင်း ငှားရမ်းဆောင်ရွက်ရမည်။

(ခ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်မှစ၍ စက်ရုံနှင့်ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းဇယားများအားလုံးအား စာရင်းစစ်အစစ်ဆေးခံနိုင်ရေးနှင့် အခြားလိုအပ်သည်များဆောင်ရွက်နိုင်ရန် စက်ရုံမငှားရမ်းမီအချိန်ထိ ရှိသည့်အတိုင်း စနစ်တကျထိန်းသိမ်းဆောင်ရွက်ရမည်။

(ဂ) စက်ရုံအဆောက်အဦနှင့် စက်ပစ္စည်းများအား လိုအပ်သည့် ပြင်ဆင်မွမ်းမံခြင်းများ ဆောင်ရွက်ရမည်။

(ဃ) လုပ်ငန်းများတိုးချဲ့ခြင်း၊ စက်ပစ္စည်းများထပ်မံတိုးချဲ့တပ်ဆင်ခြင်းများကို "အငှားချထားသူ" ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(င) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီး မီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာထားရှိ ရမည်။

(စ) "အငှားချထားသူ"၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပုံစံပြောင်း လဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်းများမပြုလုပ်ရ။

(ဆ) အငှားချထားသည့် ပစ္စည်းများကို တဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ ကိုယ်စားဆောင်ရွက်စေခြင်း (သို့မဟုတ်) တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြု ခွင့်ပေးခြင်း စသည်တို့ လုံးဝမပြုလုပ်ရ။

(ဇ) အငှားချထားသည့် စက်ရုံ၏အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချ သည့် ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက "အငှားချထားသူ"က နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကို ဝင်ရောက်ခွင့်ပြုရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းများနှင့်ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်၊ အခြား အခွန်အခများနှင့် ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးကို ကျခံပေး ဆောင်ရမည်။ တံဆိပ်ခေါင်းအက်ဥပဒေ ပုဒ်မ (၉)အရ ကျသင့်သော တံဆိပ်ခေါင်း ခွန်ကို မြေ "အငှားချထားခြင်းခံရသူ" က ထမ်းဆောင်ရမည်။

(ည) ဤအငှားစာချုပ်သက်တမ်းကုန်သည့်အခါ အငှားချစက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေအတိုင်း ရှိနေစေရန် ပြုပြင်မွမ်းမံထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုး အကြောင်း ဆီလျော်မှုရှိသောပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံ နိုင်သည်။

(ဋ) စက်ရုံငှားရမ်းရေး စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၄၅) ရက်အတွင်း "အငှားချ ထားသူ"အား အငှားချထားသည့် ပစ္စည်းအားလုံးကို ငှားရမ်းစဉ်အခြေအနေအတိုင်း

အဖိုးစားနားမပါရှိပဲ "အငှါးချထားသူ" ၏ လက်ဝယ်အရောက် လွှဲပြောင်းပေးအပ်ရမည်။ အကယ်၍ စာချုပ်သက်တမ်းအတွင်း မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များပေါ်ပေါက်ပါက ပြန်လည်အပ်နှံရမည့်အနေအထားကို နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ဆောင်ရွက်ရမည်။

(ဎ) အငှားချထားသည့် စက်ရုံတွင်တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်းစာချုပ်သက်တမ်းကုန်းဆုံးသည့် အချိန်တွင် အခကြေးငွေပေးရန်မလိုဘဲ "အငှားချထားသူ" ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိတပ်ဆင်ထားသော ပစ္စည်းအား အငှားချသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီကတည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက်ရယူထားရမည်။ အသစ်တပ်ဆင်အသုံးပြုသော ကုန်ထုတ်စက်များကို နှစ်ဘက်ညှိနှိုင်းပြီးမှ ပြန်လည်ဖြုတ်ယူရမည်။သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့်အခြားရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲဖြုတ်ယူသွားနိုင်သည်။

(ဏ) စက်ရုံကိုလက်ခံသည့်နေ့တွင် စက်ရုံ၌ရှိသော ကုန်ကြမ်းများ၊ ကုန်ချောများ၊ တဝက်တပျက်ကုန်ချောများ၊ စက်အရန်ပစ္စည်းများ၊ စက်သုံးဆီများအစရှိသည့် ကုန်ခမ်းနိုင်သည့်ပစ္စည်းများကို ဆက်လက်အသုံးပြုလိုပါက နှစ်ဖက်ညှိနှိုင်း၍ သတ်မှတ်ထားသည့် တန်ဖိုးဖြင့် ဝယ်ယူပြီး အသုံးပြုနိုင်ခွင့်ရှိသည်။

(ပ) ကုန်ချောပစ္စည်းများကို သတ်မှတ်စက်စွမ်းအားထက်မကျော်လွန်စေဘဲ ထုတ်လုပ်ခွင့်ရှိပြီး ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့်ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(ဖ) စက်ရုံမှ လက်ရှိထုတ်လုပ်နေသော ကုန်အမှတ်တံဆိပ်ကို ဆက်လက်အသုံးပြုပါက အရည်အသွေးကျဆင်းမှုမရှိစေရန်နှင့် နောက်ဆက်တွဲ (င)ပါ စံချိန်စံညွှန်းများနှင့် ကိုက်ညီသောကုန်ကြမ်းများကို သတ်မှတ်ထားသော အချိုးအစားအတိုင်း အသုံးပြုထုတ်လုပ်ရမည်။

(ဗ) မိမိ၏ ကိုယ်ပိုင်ကုန်အမှတ်တံဆိပ်ဖြင့် ထုတ်လုပ်လိုက ထုတ်လုပ်ခွင့်ရှိသည်။ သို့ရာတွင် အဆိုပါ ကုန်အမှတ်တံဆိပ်နှင့် စပ်လျဉ်း၍ မူပိုင်အခွင့်အရေးများကိုချိုးဖောက်ကြောင်း တရားစွဲဆိုခံရလျှင် "အငှားချထားခြင်းခံရသူ" ၏ တာဝန်သာဖြစ်သည်။

(ဘ) စက်ရုံမှ မထုတ်လုပ်ဘူးသော ကုန်ပစ္စည်းအမယ်သစ်ကို ထုတ်လုပ်လိုပါက "အငှားချထားသူ"သို့ ကြိုတင်ညှိနှိုင်းသဘောတူညီချက်ရယူပြီးမှသာ ထုတ်လုပ်နိုင်ခွင့်ရှိသည်။

(မ) အငှားချထားသည့်စက်ရုံမှ ထွက်ရှိသောအခိုးအငွေ့များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု ၊ လေထု တို့ကိုညစ်ညမ်းအောင်မပြုရ။

(ယ) "အငှားချထားခြင်းခံရသူ"သည် ငှားရမ်းစက်ရုံနှင့်ပတ်သက်၍ ပတ်ဝန်းကျင်အတွက်

အနှောက်အယှက်ဖြစ်စေမည့် ဆူညံသံများ၊ အခြားအနှောက်အယှက်ဖြစ်စေမည့် အန္တရာယ်ကို ကြိုတင်ကာကွယ်တားဆီးရမည်။ အကယ်၍ မလွဲမရှောင်သာဘဲ ဖြစ်ပွားပါက "အငှားချထားခြင်းခံရသူ" ကကိစ္စကျေနပ်ပြီးဆုံးသည့်တိုင်အောင်တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(န) အငှားချထားသည့် စက်ရုံတွင်ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(ပ) "အငှားချထားခြင်းခံရသူ" မှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး အငှားချထားသူထံမိတ္တူတစ်စုံအပ်နှံထားရမည်။

(ဖ) စက်ကိရိယာများအား အမှန်တကယ်ထုတ်လုပ်နိုင်သည့် သတ်မှတ်စက်စွမ်းအားထက် ကျော်လွန်ထုတ်လုပ်ရန် အသုံးမပြုရ၊ သတ်မှတ်ထားသည့် စက်ကြံ့ခိုင်ရေးများပြုလုပ်ရန် သင့်လျော်သော စက်ရပ်နားချိန်များ သတ်မှတ်ထားရမည်။

(ဗ) စက်ရုံအတွင်း စိမ်းလန်းစိုပြေရေးနှင့် သာယာလှပရေးလုပ်ငန်းစဉ်များအတွက် လုပ်ငန်းရုံးချုပ်၏ ညွှန်ကြားသတ်မှတ်ထားသည့်အတိုင်း အငှားချထားခြင်းခံရသူမှ ဆက်လက်ပံ့ပိုးကူညီပေးသွားရမည်။

(ဘ) စက်ရုံဝန်ထမ်းများအတွက် အုပ်ချုပ်မှုကိစ္စသွားလာနိုင်ရန် အုပ်ချုပ်မှုယာဉ်၊ ဝန်ထမ်းကြို/ပို့ယာဉ်နှင့် အရေးကြီးကိစ္စရပ်များအတွက် သင့်လျော်သလို မော်တော်ယာဉ်များ စီစဉ်ဆောင်ရွက်ပေးရမည်။

(မ) အငှားချထားသည့် စက်ရုံတွင်အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီ ပေးဆောင်ရမည်ဖြစ်ပြီး ပေးဆောင်ထားသည့် ပြေစာအထောက်အထား မိတ္တူများအား "အငှားချထားသူ" ထံ လစဉ်ပေးပို့ရမည်။

(ယ) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်ဆီ၊ ဓါတ်ဆီတို့အား "အငှားချထားခြင်းခံရသူ" ၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ရ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီ၊ သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေများအား စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထားအတိုင်း ပေးချေရမည်။

(လ) အငှားချထားသည့်စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး၊ အာမခံသက်တမ်းကျော်လွန်မှုမရှိစေရေး တာဝန်ယူဆောင်ရွက်ရမည်။

(ဝ) စက်ရုံရှိ မော်တော်ယာဉ်များနှင့်ပတ်သက်၍ စက်သုံးဆီနှင့် ပြုပြင်ထိန်းသိမ်းမှုများကို "အငှားချထားခြင်းခံရသူ" မှ တာဝန်ယူဆောင်ရွက်ရမည်။

(သ) "အငှားချထားခြင်းခံရသူ"သည် မြေနေရာလွတ်များတွင် အဆောက်အဦသစ် ဆောက်လုပ်လိုပါက "အငှားချထားသူ" သို့ ကြိုတင်ညှိနှိုင်းသဘောတူညီချက်ရယူရမည်ဖြစ်ပြီး မြေငှားရမ်းခ အဖိုးစားနားအားနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

## "အငှားချထားသူ"၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ

၁၆။ "အငှားချထားသူ"၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ"အား အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင်တပ်ဆင်ထားပြီးသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ" အားဆက်လက်အသုံးချခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံအခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် ပစ္စည်းများကိုလည်းကောင်း နည်းလမ်းတကျလုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များစေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက် ကျသင့်သည့် မြေခွန်ကိုပေးဆောင်ရမည်။

(င) စက်ရုံတွင်အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့်အခွန်အခများအား "အငှားချထားခြင်းခံရသူ"မှ လစဉ်အချိန်မီပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(စ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(ဆ) အငှားချထားသည့်စက်ရုံနှင့်သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်းကျော်လွန်မှုမရှိစေရေး ကြပ်မတ်ဆောင်ရွက်ရမည်။

## စာချုပ်သက်တမ်းတိုးခြင်း

၁၇။ "အငှားချထားခြင်းခံရသူ"သည် စက်ရုံငှားရမ်းရေး စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် အငှားချစက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ်ငှားရမ်းလိုသည့်ကာလနှင့် ငှားရမ်းခနှုန်းထားကို ဖော်ပြလျှောက်စာချုပ်သက်တမ်း တိုးမြှင့် ပေးပါရန် "အငှားချထားသူ" ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ(၃)လ ကြိုတင်၍စာဖြင့် တင်ပြရမည်။ စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက ဆက်လက်ငှားရမ်းမည့်နှစ်အား (၅)နှစ်သတ်မှတ်ပြီး၊ (၅)နှစ် (၃)ကြိမ် ဆက်လက်ငှားရမ်းခွင့်ရှိသည်။ ထပ်မံငှားရမ်းမည့်ကာလ အတွက် နှစ်စဉ်ငှားရမ်းခ နှုန်း ထားကို

# MOTHER INDUSTRIAL CO., LTD.

**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.


MOTHER INDUSTRIAL CO., LTD.
No...............
Date ...........
YANGON

## ကုန်ကြမ်း၊ လောင်စာနှင့် သွင်းအားစုများ ရရှိရေး ဆောင်ရွက်ချက်များ

၁။ စက်ရုံတစ်ရုံအတွက်တစ်ရက်လျှင်ကွန်ကရစ်အုတ်ချပ်ရေ (၃၅၀၀၀၀) ထုတ်လုပ်နိုင်ရန်အောက်ပါအတိုင်းကုန်ကြမ်းများ လိုအပ်ပါသည်။ အများစုကို ကိုယ်တိုင်ထုတ်လုပ်ပြီး အချို့ကို ဝယ်ယူရန် ဖြစ်ပါသည်။

| စဉ် | ကုန်ကြမ်းအမျိုးအစား | ရေတွက်ပုံ | နေ့စဉ်လိုအပ်ချက် | နှစ်စဉ်လိုအပ်ချက် |
|---|---|---|---|---|
| (က) | မြစ်သဲ | တန် | ၄၇၉ | ၁၄၃၇၀၀ |
| (ခ) | ထုံးမှုန့် | တန် | ၉၀ | ၂၇၀၀၀ |
| (ဂ) | ဘိလပ်မြေ | တန် | ၃၀ | ၉၀၀၀ |
| (ဃ) | ဂေါဒန် | တန် | ၈ | ၂၄၀၀ |
| (င) | ပွဆေးမှုန့် | တန် | ၀.၂၅ | ၇၅ |
| (စ) | ကျောက်မီးသွေး | တန် | ၁၅ | ၄၅၀၀ |

၂။ မြစ်သဲကိုစက်ရုံတည်ရှိရာနှင့် အနီးဆုံးဖြစ်သောလှိုင်မြစ်၊ဝါးတစ်ရာဒေသမှထုတ်လုပ်သယ်ယူပါမည်။

၃။ ထုံးမှုန့်ကိုမြိုင်ကလေးနှင့်ကမ္ဘ စသည့်ဒေသတို့မှဝယ်ယူမည်ဖြစ်ပါသည်။

၄။ ဘိလပ်မြေကို ရန်ကုန်မှဝယ်ယူပါမည်။

၅။ ပွဆေးမှုန့်ကို ပြည်ပမှဝယ်ယူပါမည်။

၆။ ကျောက်မီးသွေးကို ကလေးဝမှ ဝယ်ယူပါမည်။

၇။ ဂေါဒန်ကျောက်ကို အမှတ် (၃) သတ္တုလုပ်ငန်း၊ သီပေါ ဂေါဒန်မိုင်းမှ ဝယ်ယူသုံးစွဲပါမည်။

၈။ လောင်စာကျောက်မီးသွေးကိုစစ်ကိုင်းတိုင်းဒေသကြီး၊ ကလေးမြို့နယ်မှဝယ်ယူပါမည်။

ဦးအောင်မြတ်
(အုပ်ချုပ်မှု ဒါရိုက်တာ)
MOTHER INDUSTRIAL CO.,LTD


**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

# MOTHER INDUSTRIAL CO., LTD.

**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ (၂၁ )ရက်။

အကြောင်းအရာ ။ ။ ဝန်ထမ်းလစာကျပ်(၁၄၄၀၀၀)နှင့် အထက်ရရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်ရန် ကတိဝန်ခံချက်တင်ပြခြင်း။

Mother Industrial Company ၏ စက်ရုံ (၃)ရုံအတွက် ခန့်ထားမည့်ဝန်ထမ်းများမှ လစာငွေကျပ် (၁၄၄၀၀၀) အထက်ရရှိသော ဝန်ထမ်းများ၏ ဝင်ငွေခွန်ကို သတ်မှတ်ထားသည့် စည်းမျဉ်းစည်းကမ်း နှင့် အညီ ဝန်ထမ်းများထံ မှ စုစည်း၍ ပေးဆောင်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ဦးအောင်မြတ်
အုပ်ချုပ်မှု ဒါရိုက်တာ
Mother Industrial Co.,Ltd.

**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

မီးဘေးကြိုတင် ကာကွယ်မှု အထောက်အထားတင်ပြခြင်း

၁။ ကျွန်တော်တို့ MOTHER INDUSTRIAL CO.,LTD. အနေဖြင့်တစ်နေ့လျှင် အုတ်လုံးရေ (၃၅၀၀၀၀)ကျစက်ရုံ(၃)ရုံတည်ဆောက်ပြီး၊နိုင်ငံတကာအဆင့်မီအပေါ့စားသဲကွန်ကရစ်အုတ်နှင့်ဖိအားဖြင့်ခံသဲကွန်ကရစ်အုတ်များထုတ်လုပ်၍ပြည်တွင်းတွင်ရောင်းချသည့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီခွင့်ပြုမိန့် လျှောက်ထားခြင်းဖြစ်ပါသည်။

ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းလုပ်ကိုင်ရာတွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အနေဖြင့် အောက်ပါအတိုင်းဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။

(က) ရေဂါလံ(၅၀၀၀၀) ဆန့်ရေလှောင်ကန်(၃)လုံးတည်ဆောက်ထားခြင်း၊

(ခ) စက်ရုံကိုသံကူကွန်ကရစ် ဖြင့်တည်ဆောက်ထားခြင်း၊

(ဂ) စက်ရုံအပြင်တွင်ရေပုံး၊မီးချိတ်၊မီးကပ်၊သဲပုံး၊သဲအိတ်နှင့် မီးသတ်ဆေးဘူးများအဆင် သင့်ထားရှိမည် ဖြစ်ပါသည်။

(ဃ) ဝန်ထမ်းများကိုမီးအရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများလေ့ကျင့်ပေးခြင်း၊

(င) စက်ရုံအတွင်းနှင့်စက်ရုံးအနီးပတ်ဝန်းကျင်တွင်ဆေးလိပ်သောက်ခြင်းကို တင်းကျပ်စွာတားမြစ်ထားရှိခြင်း၊

၂။ အထက်ဖော်ပြပါအချက်များအပြင်လျှပ်စစ်အန္တရာယ်မဖြစ်ပေါ်စေရန်တည်ဆဲလျှပ်စစ်ဆိုင်ရာ အမိန့်၊ညွှန်ကြားချက်၊စနစ်များနှင့်အညီဆောင်ရွက်သွားမည်ဖြစ်ပါသည

ဦးအောင်မြတ်

(အုပ်ချုပ်မှု ဒါရိုက်တာ)

MOTHER INDUSTRIAL CO.,LTD.

# MOTHER INDUSTRIAL CO., LTD.

**Office** : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.


## လျှပ်စစ်ဓါတ်အားသုံးစွဲမှုအတွက် ရှင်းလင်းချက်

ကျွန်တော်တို့ **MOTHER INDUSTRIAL** CO.,LTD. သည် စက်ရုံအတွက်လိုအပ်သော လျှပ်စစ်ဓါတ်အားများကိုမြန်မာ့လျှပ်စစ်ဓါတ်အားလိုင်းမှရယူအသုံးပြုခြင်းအပြင်လိုအပ်ပါကမိမိတို့ကုမ္ပဏီအစီအစဉ်ဖြင့် သုံးစွဲမည်ဖြစ်ပါကြောင်း ရှင်းလင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးအောင်မြတ်
(အုပ်ချုပ်မှုဒါရိုက်တာ)
**MOTHER INDUSTRIAL CO.,LTD**


**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053
**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

# MOTHER INDUSTRIAL CO., LTD.

Office : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.

<u>သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းစဉ်</u>

ကျွန်တော်များ MOTHER INDUSTRY COMPANY LIMITED သည်စက်ရုံစတင်တည်ဆောက်စဉ်မှ စ၍စက်ရုံ လည်ပတ်နေစဉ်ကာလတစ်လျှောက်လုံးသဘာဝပတ်ဝန်းကျင် ထိမ်းသိမ်းရေးလုပ်ငန်းစဉ်များကို အောက်ပါအတိုင်းဆောင်ရွက်သွားပါမည်။

(က) စက်ရုံဝန်းကျင်တွင်လေကာပင်များအပါအဝင် အမြဲစိမ်းနှစ်တို၊နှစ်ရှည်ပင်များစိုက်ပျိုးမည်ဖြစ်ပါသည်။ မြေဆီလွှာ၊ဖုန်မှုန့်များလွင့်ပါးခြင်းမရှိစေရန်စက်ရုံမြေနေရာအားလုံးကိုအလှမြက်များစိုက်ပျိုးခြင်း၊လမ်းများကို ကွန်ကရစ်ခင်းခြင်းများဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ခ) အဓိကကုန်ကြမ်းဖြစ်သောမြစ်သဲကိုခွင့်ပြုဒေသ၊ခွင့်ပြုနေရာတို့မှ ထုတ်ယူဆောင်ရွက်မည်ဖြစ်သောကြောင့် မြစ် ကြောင်းအတွင်းရေစီးရေလာကောင်းမွန်ပြီး မြစ်ကြောင်းတစ်လျှောက်ဖွံ့ဖြိုးတိုးတက်စေပါသည်။

(ဂ) စက်ရုံတွင်အသုံးပြုသည့် ကုန်ကြမ်းများဖြစ်သော မြစ်သဲ၊ထုံး၊ ဘိလပ်မြေ၊ ဂေါဒန်ကျောက် စသည်တို့ကို အချိုးကျရောစပ်ကြိတ်ခွဲသုံးစွဲ သည့်အတွက်လေလွင့်ဆုံးရှုံးမှုမရှိပါ။ လုပ်ငန်းသဘာဝအရထွက်ရှိလာသည့် ဖြတ်စဘေးထွက်ပစ္စည်းများကိုရောစပ်၍ကုန်ကြမ်းများကိုနည်းစဉ်တလျှောက်စုစည်းရယူပြီးပြန်လည်ထည့်သွင်း (Recycle) အသုံးပြုပါမည်ဖြစ်ပါသည်။

(ဃ) ကုန်ချောတွင်ထွက်ရှိလာမည့် အကျိုးအကြေများကို မြေသားကောင်းမွန်စေခြင်း (သို့) လမ်းခင်းခြင်းလုပ် ငန်းများတွင် ပြန်လည်အသုံးပြု (**REUSE**) နိုင်ပါသည်။

(င) ဤစက်ရုံသည် အဆင့်မြင့်နည်းပညာအသစ်ဖြစ်ပြီး ခေတ်မီစက်ကြီးများဖြင့် အသုံးပြုထုတ်လုပ်မည် ဖြစ်ပါသည်။ ရေနွေးငွေ့ဘွိုင်လာကို မီးထိုးသည့်နေရာတွင်သာကျောက်မီးသွေး(သို့) သဘာဝဓာတ်ငွေ့ ဖြင့်သုံးစွဲပါမည်။အခြားနေရာများတွင်အပူစွမ်းအင်တိုက်ရိုက်သုံးစွဲခြင်းမရှိသဖြင့် ပတ်ဝန်းကျင်ညစ်ညမ်းစေမည့် ကာဗွန်ဒိုင်အောက်ဆိုဒ် ဓာတ်ငွေ့ထုတ်လွှတ်ခြင်းကိုလျှော့ချ (**REDUCE**) ဆောင်ရွက်ထားပါသည်။

ဦးအောင်မြတ်

(အုပ်ချုပ်မှု ဒါရိုက်တာ)

**MOTHER INDUSTRIAL CO.,LTD**

**Tel** : 951-2300919, 2300929, 218462 **Fax** : 951-2301053

**E-mail** : mothertrading1997@gmail.com, MOTHER-TRADE@mptmail.net.mm

# MOTHER INDUSTRIAL CO., LTD.

Office : 44 / 46, 2nd Street, Ward (1), Lanmadaw Township, Yangon, Myanmar.


## လူမှုဖူလုံရေးအစီအစဉ်

MOTHER INDUSTRIAL CO.,LTD သည်နိုင်ငံတော်ကသတ်မှတ်ထားသောအာမခံလုပ်ငန်းတခုခုတွင်ဝန်ထမ်းများနှင့် အလုပ်သမားများအတွက် သတ်မှတ် ထားသော အာမခံ အမျိုးအစား အလိုက် အာမခံထားရှိပေးမည်ဖြစ်ပါသည်။

ထို့အပြင်–

(က) ဝန်ထမ်းများ၏ကျန်းမာရေးအတွက် ဆေးခန်းဖွင့်လှစ်ထားရှိခြင်း၊

(ခ ) လုပ်ငန်းခွင်တွင်ထိခိုက်ရှနာမှုများအတွက် FIRST AID BOX များထားရှိပေးခြင်း၊

(ဂ ) အမျိုးသမီးနေအိမ်ခန်း၊အမျိုးသားနေအိမ်ခန်းနှင့်အိမ်ထောင်သည် နေအိမ်လိုင်းခန်းများသီးသန့်ဆောက်လုပ်ပေးခြင်း၊

(ဃ) ရေအိမ်များကိုလည်းအဆောင်တိုင်းအတွက်သီးသန့်ထားရှိပေးခြင်း၊

(င ) တစ်နေ့လျှင်အလုပ်ချိန် ၈း၀၀ နာရီအပြင် တနင်္ဂနွေတစ်ရက်နှင့် နိုင်ငံတော်အစိုး ရရုံးပိတ်ရက်များတွင်ပိတ်ရက်ပေးခြင်း၊

(စ ) အလုပ်ပိတ်ရက်ကို လစာမှဖြတ်တောက်မှုမပြုလုပ်ခြင်း၊

(ဆ) အလုပ်ပိတ်ရက်တွင်အချိန်ပိုအလုပ်ဆင်းရပါကတည်ဆဲဥပဒေများနှင့်အညီလုပ်အားခခံစားခွင့်ရှိခြင်း၊

(ဇ ) အလုပ်သမားများဖျားနာ၍အလုပ်မလုပ်နိုင်သည့်အခါ ဆရာဝန်ညွှန် ကြားချက် အတိုင်းအ လုပ်နားခွင့် ပေးခြင်း၊

(ဈ) အလုပ်သမားများ၏မိသားစုဝင်(သို့မဟုတ်)မိဘနာရေးကိစ္စဖြစ်သည့် အခါမျိုးတွင် အနည်းဆုံး အခကြေးငွေ (လစာ) စာရင်းမှ ဖြတ်တောက်ခြင်းမပြုဘဲ သတ်မှတ်ချက်များနှင့်အညီ အလုပ်နားခွင့်ပေးခြင်း၊

(ည) အလုပ်တက်ဆင်းရန်မော်တော်ယာဉ်ကြိုပို့ပေးခြင်း(သို့) အမှန်ကုန်ကျသည့် ဘတ်(စ်)ကားခ ထုတ်ယူခွင့်ပြုခြင်း၊

(ဋ) အလုပ်ဆင်းသည့်ရက်တွင်နေ့လည်စာထမင်းတစ်နပ် (သို့)ငွေကြေးထောက်ပံ့ပေးခြင်း၊

(ဌ) အလုပ်ခွင်တွင်သောက်ရေသန့်ထားရှိပေးခြင်း၊

(ဍ) တူညီဝတ်စုံများချုပ်လုပ်၍ အခမဲ့တစ်နှစ်လျှင်(၂)စုံဖြန့်ဝေပေးခြင်း၊

(ဎ) လုပ်ငန်းခွင်အန္တရာယ်ကင်းပစ္စည်းများထုတ်ဝေ ဝတ်ဆင်လုပ်ဆောင်စေခြင်း၊

(ဏ) လူမှုဖူလုံရေးထည့်ဝင်ငွေများကိုလုပ်သားနှင့်ကုမ္ပဏီတို့အချိုးကျထည့်ဝင်ပေးခြင်း၊

အထက်ဖော်ပြပါအချက်များအပြင်နိုင်ငံတော်အစိုးရမှအခါ အားလျော်စွာထုတ် ပြန် လာသော စည်းမျဉ်း၊စည်းကမ်းများနှင့် အညီ လူမှုဖူလုံ ရေးအစီအစဉ်များကို တိုးချဲ့ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

ဦးအောင်မြတ်

(အုပ်ချုပ်မှု ဒါရိုက်တာ)

MOTHER INDUSTRIAL CO.,LTD

# အပေါ့စားသဲကွန်ကရစ်အုတ်နှင့် ဖိအားမြင့်ခံသဲကွန်ကရစ်အုတ် ထုတ်လုပ်ခြင်းလုပ်ငန်း ထုတ်လုပ်မှုနည်းစဉ်

# INTEGRATED AUTOCLAVED AERATED CONCRETE (AAC) BIRCK AND AUTOCLAVED PRESSED CONCRETE (APC) BRICK PRODUCTION FLOW CHAT



